# မိတ်ဆက်စကား

بِسْمِ اللَّهِ الرَّحْمَنِ الرَّحِيمِ

မိဘတို့၏ အမွေအနှစ်သည် သားသမီးရတနာများပင်ဖြစ်၏။ သို့ရှိရာ မိမိတို့၏ အသိ၊ အတတ် ပညာနှင့် ဗဟုသုတများကို ရင်သွေးများအား အပ်နှံသွားရပေမည်။ ကလေးတို့အား ပညာရေးပျိုးထောင်ရာတွင် မှန်ကန်သော သာသနာ့ အတွေးအခေါ်များရင့်ကျက်စေမည့် အစ္စလာမ့် အခြေခံများကို သင်ကြားရန်မှာ တာဝန် ကြီးတစ်ရပ်ဖြစ်ပေသည်။

မွေးလာမ်သည် ကလေးများအား ပြုစုရမည့် ကဏ္ဍကိုလည်း ချန်လှပ်ထားခြင်းမရှိ။ မွေးရာမှ သေဆုံးသည်အထိ တွေ့ကြုံရမည့် စခန်းမှန်သမျှတွင် လိုအပ်သော ဥပဒေ၊ စည်းကမ်းများနှင့် ဆုံးမစကားများ ဖြင့်ထောက်ပြနေပါသည်။ အရွယ်ရောက်ချိန်တန်ထမ်း ဆောင်ရမည့် ဖရပ်စ်တာဝန်ချနည်းများကို ဖယောင်းပမာ တူသော ငယ်ရွယ်သူကလေးသူငယ်များကို ငယ်စဉ်ကပင် သွန်သင်ထားရန် လိုအပ်သဖြင့် မဒ်ရာဆာအေ့ဟ်ယာ အုလ်အူလူးမ် အစ္စလာမ်ဘာသာရေးစာသင်ကျောင်းမှ ဤ "အစ္စလာမ့် ပညာအလင်းပြ" အခြေခံအသိတရားများ သင်ရိုးညွှန်းတမ်းကို ပြုစုနိုင်းရခြင်းဖြစ်၏။ သို့မှသာ နောင်ရေးပူပင်ဆင်ခြင်မိကြသည့် မွတ်စ်လင်မ်လူကြီး မိဘတိုင်း စိတ်အေးရပေမည်။

မိဘများဘက်မှ သားသမီးများအဖို့ အကောင်းဆုံးလက်ဆောင်ချီးမြှင့်မှုသည် ယဉ်ကျေးမှုစည်းကမ်း နှင့် သာသနာ့တာဝန်ပိုင်းဆိုင်ရာ ပညာရပ်များဖြစ်သည်ဟူသော ဟဒီးစ်တော်အရ "အစ္စလာမ့်ပညာအလင်းပြ" အမည်ဖြင့် စာအုပ်ငယ် (၄)အုပ်နှင့် သီးခြား ဟဒီးစ်၊ ကလေမာ၊ ဒိုအာ၊ သင်္ချိုင်းဒ် ထုတ်ခဲ့သည့်အပြင် "မအာစွမ်" ကလေးများအတွက် သီးသန့်စာအုပ်တစ်အုပ်ပါ ထုတ်ထားပါသည်။

"အင်ယှာအလ္လာဟူတာအာလာ" ဤသင်ရိုးညွှန်းများကို ရင်သွေးငယ်များ အစ-အဆုံး ဖတ်လိုက် ပါက မိဘများနှလုံးဘဝင်အေးချမ်းမှာ အမှန်ပင်ဖြစ်မည်ဟု ယုံကြည်ပါသည်။

ဤအခြေခံအစ္စလာမ့်ပညာအလင်းပြစာအုပ်သည် အခြေခံကျောင်းတွင် ပညာဆည်းပူးသင်ယူကြ သော ကျောင်းသား/သူ များအတွက်သာဖြစ်သည်။


မော်လဝီအပ္ပဒုလ်ကရီးမ် (အဆ်အဒီ)
ပညာရေးမှူး
အစ္စလာမ်ဘာသာရေးစာသင်ကျောင်း
အမှတ်(၅)ရပ်ကွက်၊

# စာပြုစုသူ၏ အမှာစာ



ကျွန်တော်သည် ၁၉၈၂-ခုနှစ်ကတည်းက ပညာသင်ယူစဉ်ကာလ၌ပင် သာသနာ့ပညာရပ်များကို ကလေးငယ်များအား အခြေခံပြသခဲ့ပါသည်။ ထိုသို့စာပြရင်း ပညာရေးစနစ်သစ်တစ်ရပ်ကို အကောင်အထည်ဖော်ခဲ့ရာ အောင်မြင်မှုရှိခဲ့ကြောင်း ရန်ကုန်မြို့ မအူကုန်းရပ်ကွက်က သက်သေတည်ခဲ့ပါသည်။ ထို့ကြောင့် ကျွန်တော်သည် မိမိမြို့ရွာ၌လည်း ထိုစနစ်သစ်ကို ဖြစ်မြောက်စေလိုပါသဖြင့် လုပ်ဖော်ကိုင်ဖက်များနှင့် စုစည်းတိုင်ပင်ကာ မိမိမြို့ရွာရှိကလေးများကို သာသနာ့ပညာမြင့်တင်မှုရှိစေရန် ရည်ရွယ်သောအားဖြင့် အစ္စလာမ့်ပညာအလင်းပြမည်သော စာအုပ်တွဲကို အလ္လာဟ်အရှင် မြတ်၏ ကူညီစောင်မမှုဖြင့် စစ်မှန်သောကျမ်းငယ်များမှ ကောက်နုတ်၍ ပြုစုရေးသားလိုက်ပါသည်။

ဤစာအုပ်သည် အီမာန်ရှင်မိဘများ၏ ရင်သွေးငယ်များ သာသနာ့အသိစိတ်ဓါတ် ခိုင်မာရင့်သန်လာစေလိုသော ရည်ရွယ်ချက်ဖြင့် ကျောင်းသား၊ ကျောင်းသူများနှင့်လျော်ညီအောင် (ပထမ၊ ဒုတိယ၊ တတိယ စတုတ္ထ)အတွဲလိုက် ပြုစုပြဋ္ဌာန်းထားပါသည်။ အတွဲတိုင်း၌ အပိုင်း(၃)ပိုင်းခွဲကာ (အီမာန်/မတ်စ်အာလာ၊ အစ္စလာမီးအာဒါးဗ်၊ အစ္စလာမ့်သမိုင်း)ဟူ၍ ကဏ္ဍအလိုက် သီးသန့်ပြုစုထားပါသည်။ ထို့အပြင် ဟဒီးစ်၊ နမားဇ်နီယာတ်ပုံစံများ။ နမားဇ်တွင် ရွတ်ဖတ်ရသောစာပိုဒ်များ၊ ကလေမာများ၊ မတ်စ်နူးန်ဒိုအာများ၊ သဂျ်ဗီးဒ်နှင့် မအ်စူမ်ကလေးများပါ မကျန်ရစေရန် အခြေခံအဆင့် (သရုပ်ဖော်ပုံပါ) သီးသန့်စာအုပ် တစ်အုပ်စီပြုစုရေးသားထားပါသည်။

ဤစာအုပ်သည် မိမိကိုယ်ကို အီမာန်ရှင်မွတ်စ်လင်မ်ဟု မှတ်ယူပါက အမှန်သိရမည်ဖြစ်သော "ဖရပ်စ်" တာဝန်ချုနည်းများကို မိမိအပါအဝင်သားသမီးများကိုပါ လေ့လာဖတ်ရှုမှတ်သားသင်ပြသင့်ပေသည်။ မိမိရင်သွေးငယ်များ၊ သာသနာ့အသိပညာတိုးပွားလာစေရန် မိဘများအနေဖြင့် အစ္စလာမ် ဘာသာရေးကျောင်းသို့ နေ့စဉ်မှန်မှန် စေလွှတ်ပေးကြပါရန် ကျွန်တော်မှ လှိုက်လှိုက်လှဲလှဲ တိုက်တွန်းနှိုးဆော်အပ်ပါသည်။

ကျွန်တော်သည် လူထဲက လူတစ်ဦးဖြစ်၍ အမှားနှင့် မကင်းနိုင်သည်ကို အပြစ်မမြင်ဘဲ အပြုသဘောဖြင့် တွေ့ရှိရသော အမှားတို့ကိုသော်လည်းကောင်း၊ ဖြည့်စွက်သင့်သည်တို့ကိုသော်လည်းကောင်း လူကိုယ်တိုင် သို့မဟုတ် စာဖြင့် ဘားအံမြို့ အမှတ်(၅)ရပ်ကွက်၊ ရော်ဘာခြံလမ်းရှိ အစ္စလာမ်ဘာသာရေးစာသင်ကျောင်းသို့ ပြင်ဆင်တိုးမြှင့်ပေးခွင့်ရှိပါကြောင်း အထူးပန်ကြားအပ်ပါသည်။

ဤစာအုပ်တွဲ ဖြစ်မြောက်စေရန် စာအုပ်စာတမ်းအကူအညီနှင့် အကြံဉာဏ်ကောင်းပေးကြသော "မော်လဝီအပ္ပဒုလ်ကရီမ် (အဆ်အဒီ) မော်ဘီ၊ ရန်ကုန်တိုင်း၊ မော်လဝီနူရ်ဟူစိန် (အဆ်အဒီ)မော်လမြိုင်မြို့ မော်လဝီတွာဟိရ် (မဟ်မူဒီ) တာမွေ၊ ရန်ကုန်၊ မော်လဝီဦးချစ်ဦး (ဘားအံ)၊ မော်လဝီယူစွဖ် (အဆ်အဒီ) ရွှေဂူန်း၊ ကရင်ပြည်နယ်။ မော်လဝီဟနစ်ဖ် (အဆ်အဒီ) ဆင်ဖြူကျွန်း၊ မကွေးတိုင်း၊ ဆရာမောင်မောင် (ဘားအံ) နှင့် မောင်လာနာ ရှောင်ကာသ် (အေရှာအတီ၊ အလယ်ရွာ) ဘားအံ" တို့အား ဤစာအုပ်ဖြင့် မှတ်တမ်းတင်ဂုဏ်ပြုပါသည်။

မိဘ၊ ဆရာ၊ ကျောင်းသား၊ ကျောင်းသူများနှင့် အီမာန်ရှင်များ၊ ကူညီသူများကို မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က ဤ "အစ္စလာမ့်ပညာအလင်းပြ " မည်သောစာအုပ်ဖြင့် "ဇွာဒကာအေဂျာရီယာ" အဖြစ် လက်ခံတော်မူပါစေသတည်း။ (အားမီးန်)

မော်လဝီစအီးဒ်အဟ်မဒ် (အဆ်အဒီ)
ဒုံရင်း၊ ကော့ထမလီန်းကျေးရွာ၊ ဘားအံမြို့။

# အီမာန်အကြောင်း

အမေး - ကလေးတို့တတွေ ဘယ်ဘာသာဝင်တွေလဲ။

အဖြေ - ကျွန်တော်တို့တတွေ အစ္စလာမ်ဘာသာဝင်တွေဖြစ်ကြပါတယ်။

အမေး - ကလေးတို့ကို ဖန်ဆင်းသောအရှင်သည် ဘယ်နှစ်ပါးရှိပါသနည်း။

အဖြေ - ကျွန်တော်တို့ကို ဖန်ဆင်းသောအရှင်သည် တစ်ပါးတည်းသာရှိပါသည်။

အမေး - အစ္စလာမ်ဆိုသည်မှာ အဘယ်နည်း။

အဖြေ - အစ္စလာမ်ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်က လက်ခံအသိအမှတ်ပြုထားသည့် တစ်ခုတည်းသော သာသနာတော်၏ အမည်ဖြစ်ပါသည်။

အမေး - အစ္စလာမ့်အခြေအမြစ်တရား ဘယ်နှစ်ပါးရှိပါသလဲ။

အဖြေ - အစ္စလာမ့်အခြေအမြစ်တရား ငါးပါးရှိပါသည်။

အမေး - အစ္စလာမ့်အခြေအမြစ်တရား ငါးပါးကိုဖော်ပြပါ။

အဖြေ - အစ္စလာမ့်အခြေအမြစ်တရား ငါးပါးမှာ -
(၁) တောင်ဟီးဒ် (ခေါ်) အီမာန်၊ (၂) စွလားသ် (ခေါ်) နမားဇ်၊
(၃) ဆွိုယမ် (ခေါ်) ရိုဇာဟ်၊ (၄) ဇကာ့သ်၊ (၅) ဟဂ်ျ
စသည်တို့ဖြစ်ပါသည်။

အမေး - တောင်ဟီးဒ် (ခေါ်) အီမာန်ဆိုသည်ကို ရှင်းပြပါ။

အဖြေ - အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းတည်ရှိကြောင်းနှင့် တမန်တော်မိုဟမ္မဒ်(စွ) သခင်သည် နောက်ဆုံးစေလွှတ်ခြင်းခံရသော တမန်တော်တစ်ပါးဖြစ်ကြောင်း သေဆုံးသည့်တိုင်အောင် လက်ခံယုံကြည်ခြင်းကို တောင်ဟီးဒ် (ခေါ်) အီမာန်ဟု ခေါ်ပါသည်။

အမေး - စွလားသ် (နမားဇ်) ကိုရှင်းပြပါ။

အဖြေ - အရွယ်ရောက်သူ မွတ်စလင်မ်အမျိုးသား၊ အမျိုးသမီးများ တစ်ရက်လျှင် ငါးကြိမ်ကျ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ခြင်းကို စွလားသ်ဟု ခေါ်ပါသည်။

အမေး - ဆွိုယမ် (ရိုဇာဟ်) ဥပုသ်ကိုရှင်းပြပါ။

အဖြေ - အရွယ်ရောက်သူ မွတ်စလင်မ် အမျိုးသား၊ အမျိုးသမီးများ တစ်နှစ်လျှင် တစ်လတိတိ ဥပုသ်သီလ စောင့်ထိန်းခြင်းကို ဆွိုယမ်ဟုခေါ်ပါသည်။

အမေး - ဇကာ့သ်ဟူသည်ကိုရှင်းပြပါ။
အဖြေ - မိမိပိုင်ဥစ္စာပစ္စည်းများကို အပုံလေးဆယ်ပုံတစ်ပုံ မရှိဆင်းရဲသူများအား ပေးဆောင်ခြင်းကို ဇကာ့သ်ဟု ခေါ်ပါသည်။
အမေး - ဟဂ်ျဟူသည်ကိုရှင်းပြပါ။
အဖြေ - ကိုယ်ခန္ဓာ ကျန်းမာ၍ ကြွယ်ဝချမ်းသာပြီးတစ်သက်တာလျှင် တစ်ခါမျှမက္ကာမြို့ရှိ **ကာ့အ်ဗာ** ကျောင်းတော်သို့ သွား၍ ဝတ်ပြုခြင်းကို ဟဂ်ျဟုခေါ်ပါသည်။
အမေး - အီမာန်ဆိုသည်မှာအဘယ်နည်း။
အဖြေ - အီမာန်ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်နှင့် အလ္လာဟ်ရစူလ်တမန်တော်ကို စိတ်ထဲ၌စွဲယူယုံကြည်လက်ခံခြင်းကို အီမာန်ဟုခေါ်ပါသည်။
အမေး - မို့အ်မင်န်ဆိုတာ ဘယ်သူလဲ။
အဖြေ - မို့အ်မင်ဆိုသည်မှာ အီမာန်စွဲယူယုံကြည်လက်ခံသူကို မို့အ်မင်န်ဟုခေါ်ဆိုပါသည်။ အစ္စလာမ့် အခြေအမြစ်တရားငါးပါး လိုက်နာကျင့်သုံးသူကိုလည်း မို့အ်မင်ဟု ခေါ်ပါသည်။
အမေး - ပြည့်ဝသောအီမာန်ရှင်တစ်ဦးဖြစ်ရန် မည်သို့ပြုလုပ်ရမည်နည်း၊ ရှင်းပြပါ။
အဖြေ - ပြည့်ဝသောအီမာန်ရှင်တစ်ဦးဖြစ်ရန် အောက်ပါအချက်အလက်အပေါ်မူတည်၏။
(၁) နှလုံးသားမှ အလ္လာဟ်အရှင်မြတ်ကိုလက်ခံယုံကြည်ခြင်း။
(၂) နှုတ်လျှာမှ ထုတ်ဖော်မြွက်ဆို သက်သေခံခြင်း။
(၃) ခန္ဓာကိုယ်ဖြင့် အမှန်တကယ်အရှင်ကို ယုံကြည်ကြောင်းကျင့်သုံးခြင်းတို့ဖြစ်ပါသည်။
အမေး - အထက်ဖော်ပြပါ အချက်သုံးချက်မှ ဆင့်ကဲရှင်းလင်းချက် ရှိပါသလား။
အဖြေ - အမျိုးအစားအလိုက် အဆင့်ဆင့်ခွဲခြားပြထားချက်ရှိပါသည်။
အမေး - ပထမအမျိုးအစားကို ရှင်းပြပါ။
အဖြေ - နှလုံးသားနှင့်ပတ်သက်သည့်လက်ခံယုံကြည်မှုအချက်(၃၀)ရှိပါသည်။ ၎င်းတို့မှာ-
(၁) အလ္လာဟ်အရှင်မြတ်ကို ဂုဏ်ဒြပ်အပေါင်းနှင့် ပြည့်စုံသော အရှင်ဟု ယုံကြည်ရန်နှင့် အခြားမည်သည့်အရာနှင့်မှ တုပနှိုင်းယှဉ်စရာမရှိဟု မှတ်ယူယုံကြည်ရမည်။
(၂) အလ္လာဟ်အရှင်သာလျှင် အရာအားလုံးထက်အရင်ရှိကြောင်း၊ ဤအရှင်သာလျှင် ထာဝရရှိမည်ဖြစ်ကြောင်း မှတ်ယူယုံကြည်ရမည်။
(၃) ကောင်းကင်တမန်များရှိကြောင်း လက်ခံယုံကြည်ရမည်။
(၄) အလ္လာဟ်အရှင်မြတ်ချပေးသော ကျမ်းစာအားလုံးလက်ခံယုံကြည်ရမည်။
(၅) အလ္လာဟ်အရှင်စေလွှတ်တော်မူသော နဗီတမန်တော်အားလုံးကိုလက်ခံ

ယုံကြည်ရမည်။

(၆) အကောင်းအဆိုးဟူသရွေ့ အရှင်ဖက်မှဖြစ်ကြောင်း ယုံကြည်ရမည်။

(၇) ကေယာမတ်သ်နေ့ရှိကြောင်း ယုံကြည်ရမည်။

(၈) ဂျန္နသ်သုခဘုံရှိကြောင်း ယုံကြည်ရမည်။

(၉) ဂျဟန္နမ်အပါယ်ငရဲဘုံရှိကြောင်း ယုံကြည်ရမည်။

(၁၀) အလ္လာဟ်ကိုသာ မြတ်နိုးတွယ်တာရမည်။

(၁၁) အလ္လာဟ်အရှင် နှစ်သက်မှုအတွက်သာ လူများနှင့်ချစ်ခင်ဆက်ဆံမှုပြုရမည်။

(၁၂) တမန်တော်မြတ် (စွ)ကို ချစ်ခင်မှုထားရှိရမည်။

(၁၃) လုပ်ရပ်တိုင်း ပြစားမှုကင်းရမည်။

(၁၄) ပြစ်မှုတစ်ခုကျူးလွန်မိ၍ နောင်ဤသို့မပြုမိရန် အမှားဝန်ချတောင်းပန်မှု ပြုရမည်။

(၁၅) အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့မှုပြုရမည်။

(၁၆) အလ္လာဟ်အရှင်၏ ကရုဏာတော်ကို မျှော်ကိုးမှုထားရှိရမည်။

(၁၇) အလ္လာဟ်အရှင်၏ ရဟ်မသ်ကရုဏာတော်ကို မျှော်လင့်ချက်ကင်းမဲ့ခြင်း မဖြစ်စေရ။

(၁၈) အရှင်မြတ်ကို အစဉ်အမြဲ ကျေးဇူးတင်လျက်ရှိနေရမည်။

(၁၉) သစ္စာ သမ္မာဓိ ထားရှိရမည်။

(၂၀) **စွဗရ်** သည်းခံခြင်းတရား ထားရှိရမည်။

(၂၁) ကိုယ့်ကိုယ်ကို အမြဲ နှိမ်ချမှုပြုနေရမည်။

(၂၂) တစ်ဦးကိုတစ်ဦး စာနာမှုထားရှိရမည်။

(၂၃) ကုသိုလ်ကံ နဖူးစာအပေါ် သဘောကျ ကျေနပ်မှုရှိရမည်။

(၂၄) အလ္လာဟ်ကိုသာ အားကိုးယုံကြည်မှု ထားရှိရမည်။

(၂၅) မိမိကိုယ်ကို မိမိမာန်မာနနှင့် ဘဝင်မြင့်ခြင်းမှ ရှောင်ကျဉ်မှုပြုရမည်။

(၂၆) ရန်ငြိုးထားခြင်း၊ မနာလိုခြင်း၊ သဝန်တိုခြင်း စသည်တို့မှကင်းစွာ နေထိုင်မှု ပြုရမည်။

(၂၇) အရှက်အကြောက်တရားထားရှိရမည်။

(၂၈) ဒေါသကို ချုပ်တည်းမှုပြုရမည်။

(၂၉) လိမ်ညာခြင်း၊သူတစ်ပါးအားအကောက်ထားခြင်း၊မကောင်းထင်ခြင်း များမပြုရ။

(၃၀) နှလုံးသားမှလောက၏ ချစ်ခင်တွယ်တာမှုများကို ကင်းဝေးအောင် ကြိုးပမ်းအားထုတ်နေရမည်။

အမေး – **အစ္စလာမ်၏ အဓိပ္ပာယ်ကို ဖော်ပြပါ။**

အဖြေ – **အစ္စလာမ်၏ အဓိပ္ပာယ်မှာ ငြိမ်းချမ်းခြင်း၊ အမိန့်နာခံခြင်းတို့ဖြစ်ပါသည်။**

အမေး – **မွတ်စ်လင်မ်ဆိုသည်မှာအဘယ်နည်း။**

အဖြေ – **အစ္စလာမ် သာသနာဝင်များကို မွတ်စ်လင်မ်ဟု ခေါ်ဆိုပါသည်။**

အမေး – မွတ်စ်လင်မ်၏ အဓိပ္ပာယ်ကို ပြောပြပါ။

အဖြေ – မွတ်စ်လင်မ်၏ အဓိပ္ပာယ်မှာငြိမ်းချမ်းရေးပြုလုပ်သူ၊ အမိန့်နာခံသူဟုရပါသည်။

အမေး – ကွဖ်ရ်၏အဓိပ္ပာယ်ကို ဖော်ပြပါ။

အဖြေ – ကွဖ်ရ်၏အဓိပ္ပာယ်မှာ ကျေးဇူးကန်းခြင်း၊ ငြင်းပယ်ခြင်းတို့ဖြစ်ပါသည်။

အမေး – ကာဖစ်ရ်ဆိုသည်ကား အဘယ်နည်း။

အဖြေ – ကာဖစ်ရ်ဆိုသည်မှာ အလ္လာဟ်နှင့် အလ္လာဟ်ရစူလ်ကို လက်မခံသူ၊ ငြင်းပယ်သူ၊ အစ္စလာမ်ဘာသာဝင်မဟုတ်သူကို ကာဖစ်ရ်ဟုခေါ်ဆိုပါသည်။

အမေး – ရှစ်ရ်က်ဆိုသည်မှာ အဘယ်နည်း။

အဖြေ – ရှစ်ရ်က်ဆိုသည်မှာ အခြားသော အရာများကို အလ္လာဟ်အရှင်မြတ်နှင့် တန်းတူထား၍ခဝပ်ကိုးကွယ်ယုံကြည်ခြင်းကို ရှစ်ရ်က်ဟုခေါ်ဆိုပါသည်။

အမေး – မွတ်ရှရီးက် ဆိုသည်မှာ အဘယ်နည်း။

အဖြေ – မွတ်ရှရီးက်ဆိုသည်မှာ အခြားသောအရာများကို အလ္လာဟ်နှင့်တုဘက်ယှဉ်ပြိုင်ကိုးကွယ် သူ ကို မွတ်ရှရီးက် ဟုခေါ်ပါသည်။

အမေး – ချမ်းသာခွင့်မရမည့်သူများကား အဘယ်နည်း။

အဖြေ – ချမ်းသာခွင့်မရမည့်သူများကား ကာဖစ်ရ်များ၊ ရှစ်ရ်က်ပြုသူများတို့ဖြစ်ကြပါသည်။

အမေး – သက်ဝင်ယုံကြည်ရမည့် အချက်ကြီး (၇) ချက်ကိုဖော်ပြပါ။

အဖြေ – သက်ဝင်ယုံကြည်ရမည့် အချက်ကြီး (၇) ချက်မှာ–

(၁) အလ္လာဟ်အရှင်မြတ်၊

(၂) အရှင်မြတ်ဖန်ဆင်းထားသော ကောင်းကင် တမန်များ၊

(၃) အလ္လာဟ်အရှင်မြတ်၏ ကျမ်းစာအုပ်များ၊

(၄) အလ္လာဟ် အရှင်မြတ်၏ နဗီတမန်တော်များ၊

(၅) ကေယာမဒ်ဖြစ်မည့်နေ့၊

(၆) အကောင်း အဆိုးဟူသမျှ အလ္လာဟ်အရှင်မြတ်ဖက်မှ ဖြစ်ပေါ်ခြင်း၊

(၇) သေပြီးနောက် ပြန် လည်ရှင်ပြန်ထရမည့်နေ့ စသည်တို့ဖြစ်ပါသည်။

အမေး – သက်ဝင်ယုံကြည်ရမည့်အချက်ကြီး (၇) ချက်မှ တစ်ချက်ချက်ကို မယုံကြည်သော သူအား မွတ်စ်လင်မ်ဟု ခေါ်ဆိုနိုင်ပါသလား။

အဖြေ – သက်ဝင်ယုံကြည်ရမည့်အချက်ကြီး (၇) ချက်မှ တစ်ချက်ချက်ကို မယုံကြည်သော သူအား မွတ်စ်လင်မ်ဟု မခေါ်ဆိုနိုင်ပါ။

အမေး – တမန်တော် (သို့မဟုတ်) ရစူလ်ဆိုတာ ဘာကိုခေါ်ပါသလဲ။

အဖြေ – အလ္လာဟ်အရှင်မြတ်က လူသားများကို တရားလမ်းမှန်ပြဘို့ တာဝန်ပေးအပ်ခြင်း ခံခဲ့ရသောပုဂ္ဂိုလ်ကို တမန်တော် (သို့မဟုတ်) ရစူလ်ဟုခေါ်ပါသည်။

အမေး – ကျွန်ုပ်တို့ တမန်တော်၏ အမည်ကိုဖော်ပြပါ။

အဖြေ – ကျွန်ုပ်တို့ တမန်တော်၏ အမည်မှာ မိုဟမ္မဒ်(စွ)ဟုခေါ်ပါသည်။

အမေး – မိုဟမ္မဒ် (စွ) သခင်သည် မည်သူဖြစ်ပါသနည်း။

အဖြေ – မိုဟမ္မဒ် (စွ) သခင်သည် အလ္လာဟ်အရှင်မြတ်၏ နောက်ဆုံးစေလွှတ်ခြင်း ခံရသော တမန်တော်ဖြစ်ပါသည်။

အမေး – ကမ္ဘာပေါ်တွင် တမန်တော်ပေါင်းမည်မျှစေလွှတ်ခြင်းခံရပါသနည်း။

အဖြေ – ကမ္ဘာပေါ်တွင် စေလွှတ်ခံရသော တမန်တော်ပေါင်း မရေတွက်နိုင်ပါ။ သို့သော် ခန့်မှန်းခြေအရ တစ်သိန်းနှစ်သောင်းလေးထောင်ကျော်ရှိပါသည်။

အမေး – မိုဟမ္မဒ် (စွ) သခင်သည် နောက်ဆုံးတမန်တော်ဖြစ်လျှင် ပထမဦးဆုံးတမန်တော်၏ အမည်ကိုဖော်ပြပါ။

အဖြေ – ပထမဦးဆုံးတမန်တော်၏ အမည်မှာ အာဒန်မ်(အ) ဖြစ်သည်။

အမေး – တမန်တော်မိုဟမ္မဒ် (စွ) မွေးဖွားရာဒေသကိုဖော်ပြပါ။

အဖြေ – တမန်တော်မိုဟမ္မဒ်(စွ)ကို အာရေဗျနိုင်ငံ၊မက္ကာမြို့တွင်ဖွားသန့်စင်တော်မူသည်။

အမေး – တမန်တော်၏ ဖခင်နှင့်မိခင်တို့၏ အမည်ကို ဖော်ပြပါ။

အဖြေ – တမန်တော်၏ ဖခင်အမည်မှာ အဗ္ဗဒွလ္လာဟ်၊ မိခင်အမည်မှာ အာမိနဟ်ဖြစ်ပါသည်။

အမေး - မိုဟမ္မဒ် (စွ)ကို အလ္လာဟ်က အဘယ့်ကြောင့် စေလွှတ်ရပါသနည်း။

အဖြေ - မိုဟမ္မဒ် (စွ)ကို အလ္လာဟ်အရှင်မြတ်က ကမ္ဘာသို့စေလွှတ်ရခြင်းမှာ အမိုက် မှောင်လွှမ်းမိုးသော အာရဗ်ကမ္ဘာကြီးနှင့် ကမ္ဘာသူကမ္ဘာသားများငြိမ်းချမ်းရေး နှင့် တရားလမ်းမှန်ရစေရန် စေလွှတ်ခြင်းခံရပါသည်။

အမေး မိုဟမ္မဒ်သခင်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်ကြောင်း မည်သို့သိရှိပါသနည်း။

အဖြေ - တမန်တော်မုဟမ္မဒ်(စွ)သခင်သည်အလွန်ကောင်းမြတ်သောကျင့်ဝတ်များကို ပြုကျင့်တော်မူ၍အလွန်မွန်မြတ်သောတရားများကိုဟောကြားတော်မူခဲ့ပါသည်။ ထိုသို့သောကျင့်ဝတ်များကို နဗီတမန်တော်များသာ ပြုကျင့်နိုင်၍ ထိုသို့ သောတရားများ ကိုလည်း နဗီတမန်တော်များသာ ဟောကြားနိုင်ပါသည် အခြားလူသားများ မတတ်စွမ်းနိုင်ကြပါ။ ထို့ကြောင့် မိုဟမ္မဒ်(စွ)သခင်သည်အလ္လာဟ်အရှင်မြတ်၏တမန်တော် အစစ်အမှန်ဖြစ်ကြောင်းသိရှိရပါသည်။

အမေး - ကျွန်ုပ်တို့သည် မည်သည့်အရှင်ကို ခဝပ်ကိုးကွယ်ရမည်နည်း။

အဖြေ - ကျွန်ုပ်တို့သည် တစ်ပါးတည်း တည်ရှိတော်မူသော အလ္လာဟ်အရှင်မြတ်ကိုသာ ခဝပ်ကိုးကွယ်ကြရပါမည်။

အမေး - အလ္လာဟ်တွင် အမိ၊ အဘ၊ သားသမီးများ ရှိပါသလား။

အဖြေ အလ္လာဟ်တွင် အမိ၊ အဘ၊ သားသမီးများ မရှိပါ။

အမေး - ကျွန်ုပ်တို့သည် မည်သို့ပြုကျင့်မှသာတမန်တော်မြတ်ကို ချစ်ခင်ယုံကြည်ရာ ရောက်မည်နည်း။

အဖြေ - ကျွန်ုပ်တို့သည် တမန်တော်မြတ်ဟောကြားတော်မူသော တရားတော်များအတိုင်းလိုက်နာပြုကျင့်မှသာလျှင် တမန်တော်မြတ်အား ချစ်ခင်ယုံကြည်ရာရောက် ပေမည်။

အမေး - မလာအေကာ ဆိုသည်မှာ အဘယ်နည်း။

အဖြေ မလာအေကာ ဆိုသည်မှာ (နူးရ်) လင်းရောင်ခြည်ဖြင့် အလ္လာဟ်ရှင်မြတ်ကဖန်ဆင်းထားပါသည်။ သာမန်လူသားမျက်စိဖြင့် မမြင်နိုင်ပေ မလာအေကာကို ကောင်းကင်တမန်ဟုလည်း ခေါ်ဆိုပါသည်။

အမေး - ထင်ရှားကျော်ကြားသော မလာအေကာ ဘယ်နှစ်ပါး ရှိပါသနည်း။

အဖြေ - ထင်ရှားကျော်ကြားသော မလာအေကာ (၄) ပါးရှိပါသည်။

အမေး - ထင်ရှားကျော်ကြားသော မလာအေကာ (၄) ပါးအမည်များကို ဖော်ပြပါ။

အဖြေ - ထင်ရှားကျော်ကြားသော မလာအေကာ အမည်များမှာ
(၁) ဂျိဗရာအီးလ်(အ) (၂) မီကာအီးလ်(အ) (၃) အစ်ရာဖီးလ်(အ) (၄) အီဇရာအီးလ်(အ) တို့ဖြစ်ကြပါသည်၊

အမေး - နဗီဆိုသည်ကား အဘယ်နည်း။

အဖြေ - နဗီဆိုသည်မှာ အလ္လာဟ်အရှင်မြတ်က လူသားများကို တရားလမ်းမှန်ပြသဖို့အတွက် တာဝန်ပေးအပ်ခြင်းခံရသော ပုဂ္ဂိုလ်ကိုနဗီ ဟုခေါ်ဆိုပါသည်။ တမန်တော် ဟုလည်းခေါ်ဆိုပါသည်။

အမေး - နဗီနှင့် ရစူလ်ကိုခွဲခြားပြပါ။

အဖြေ - နဗီသည် ကျမ်းအသစ်မရဘဲ ဝဟီသာရပြီး အရင်နဗီ၊ ရစူလ်များ၏ ၡရီအတ်သ်အတိုင်း ဆက်လက်ကျင့်သုံးနေထိုင်ခြင်းကိုနဗီဟု ခေါ်ဆိုပါသည်။ ရစူလ်သည် ကျမ်းအသစ်နှင့် ရှရီအတ်သ်အသစ် ရရှိခြင်းကို ရစူလ် ဟုခေါ်ပါသည်။

အမေး - ထင်ရှားကျော်ကြားသော ကောင်းကင်ကျကျမ်း မည်မျှရှိပါသနည်း။

အဖြေ - ထင်ရှားကျော်ကြားသော ကောင်းကင်ကျကျမ်း (၄) စောင်ရှိပါသည်။

အမေး - ကျမ်းကြီး (၄) စောင်အမည်ကိုဖော်ပြပါ။

အဖြေ - ကျမ်းကြီး (၄) စောင်အမည်မှာ
(၁) ကုရ်အာန်ကျမ်း (၂) အင်ဂျီးလ်ကျမ်း
(၃) တောင်ရတ်ကျမ်း (၄) ဇဗူးရ်ကျမ်း တို့ဖြစ်ပါသည်။

အမေး - ကျမ်းကြီး (၄) စောင်ရသော နဗီများ၏ အမည်ကိုဖော်ပြပါ။

အဖြေ - ကျမ်းကြီး (၄) စောင်ရသော နဗီများ၏ အမည်မှာ -
(၁) တမန်တောမိုဟမ္မဒ်(စွ) (၂) တမန်တော်အီစာ(အ)
(၃) တမန်တော်မူစာ(အ) (၄) တမန်တော်ဒါဝူးဒ်(အ) တို့ဖြစ်ပါသည်။

အမေး - ကောင်းကင်ကျကျမ်း စုစုပေါင်းမည်မျှရှိပါသနည်း။

အဖြေ - ကောင်းကင်ကျကျမ်း စုစုပေါင်း (၁၀၄) စောင်ရှိပါသည်။

အမေး - ကုရ်အာန် မည်သို့ကျရောက်လာပါသနည်း။

အဖြေ - ကုရ်အာန်ကျမ်းတော်မြတ်သည် လိုအပ်လျှင်လိုအပ်သလို နည်းနည်းစီကျရောက်ပါသည်။ တစ်အာယာဒ်သော်လည်းကောင်း၊ တစ်စူရာသော်လည်းကောင်းကျရောက်ပါသည်။

အမေး - အလ္လာဟ်အရှင်မြတ်မှာ ဂုဏ်တော်ရှိပါသလား။

အဖြေ - အလ္လာဟ်အရှင်မြတ်မှာ ဂုဏ်တော်ရှိပါသည်။

အမေး - အလ္လာဟ်အရှင်မြတ်တွင် ဂုဏ်တော်မည်မျှရှိပါသနည်း။

အဖြေ - အလ္လာဟ်အရှင်မြတ်တွင် ဂုဏ်တော် (၉၉) ပါးရှိပါသည်။

အမေး – အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်အချို့ကို ဖော်ပြပါ။

အဖြေ – اَلْوَاحِدُ တစ်ပါးတည်းတည်ရှိတော်မူသောအရှင်

اَلرَّازِقُ ရိဇိရိက္ခာပေးသနားတော်မူသောအရှင်

اَلْمُحْيِيْ အရာအားလုံးကိုရှင်စေတော်မူသောအရှင်

اَلْمُمِيْتُ အရာအားလုံးကိုသေစေတော်မူသောအရှင်

اَلْعَلِيْمُ အရာအားလုံးကိုအကြွင်းမဲ့သိစေတော်မူသော အရှင်

اَلْبَصِيْرُ အရာအားလုံးကိုမြင်နိုင်တော်မူသောအရှင်

အမေး – (အွမ္မီ ဆိုသည်မှာ အဘယ်နည်း။)

အဖြေ – အွမ္မီ ဆိုသည်မှာမည်သူတစ်ဦးတစ်ယောက်ထံမှ ပညာမသင်ယူမဆည်းပူးရသော သူကို အွမ္မီဟုခေါ်ပါသည်။ တမန်တော်မြတ်သည် အွမ္မီဖြစ်၏။ အလ္လာဟ် အရှင်မြတ်သည် ကိုယ်တော်အား ကမ္ဘာပေါ်ရှိ ပညာရှင်များထက် အသိဉာဏ် တော်ကိုသာ ပို၍ ချီးမြှင့်တော်မူသည်။

အမေး – မူလကျမ်း (၁၀၃) စောင်ဖယ်ပြီး အဘယ်ကြောင့် ကုရ်အာန်ကျမ်းကိုသာ လက်ခံ ရပါသနည်း။

အဖြေ – ရှေးယဟူဒီ လူမျိုးများနှင့် နစ္စရာနီလူမျိုးတို့သည် ထိုကျမ်း (၁၀၃) စောင်ကို မကြံ စည် မကြံအပ်သော ကဖောင်းကဆန်ဖြစ်သော ကိစ္စရပ်များကို ပြုလုပ် ကြသော ကြောင့် ထိုကျမ်းစာများသည် မူရင်းအတိုင်း မတည်ရှိတော့ပေ။ ထို့ကြောင့် ကုရ်အာန်ကျမ်းပါ အမိန့်အတိုင်းသာ လက်ခံကျင့်သုံးကြရပါသည်။

အမေး – ကုရ်အာန်ကျမ်းမြတ်သည် မည်မျှတိုင်တည်ရှိမည်နည်း။

အဖြေ – ကုရ်အာန်ကျမ်းမြတ်သည် ကေယာမဒ်မဖြစ်မချင်း တည်ရှိနေပေမည်။

အမေး – ကုရ်အာန်ကျမ်းတော်မြတ်ကို မည်သူက ထိန်းသိမ်းမည်နည်း။

အဖြေ – ကုရ်အာန်ကျမ်းတော်မြတ်ကို အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်ထိန်းသိမ်း တော်မူမည်။

အမေး - ကုရ်အာန်ကို အလ္လာဟ်က မည်သို့ထိန်းသိမ်းမည်နည်း။

وَاِنَّا لَهٗ لَحٰفِظُوْنَ

အဖြေ -

**ငှင်းနောက်ငါလ္လာဟ်အရှင်မြတ်သည် ကျမ်းမြတ်ကုရ်အာန်ကိုစောင့်ရှောက်တော်မူမည်။**

ကုရ်အာန်တွင်ပါဝင်သော ဗျည်း၊ အက္ခရာစာလုံးတိုင်း စောင့်ရှောက်ရန် **မိုအာကီလ်** ကိုလွှဲအပ်ထားလေသည်။

အမေး - အုစူးလေရှရီအတ်သ်၏ အဓိပ္ပါယ်ကို ဖော်ပြပါ။

အဖြေ - အုစူးလေရှရီအတ်သ်ဆိုသည်မှာ ရှရီအတ်သ်၏ ရေသောက်မြစ်ဟု အဓိပ္ပါယ်ရပါသည်။

အမေး - အုစူးလေရှရီအတ်သ်ကို ဖော်ပြပါ။

အဖြေ - အုစူးလေရှရီအတ်သ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(၁) ကိသာဗုလ္လာဟ် كِتَابُ اللهِ

(၂) စွန္နသ်သေရစူလုလ္လာဟ် سُنَّتِ رَسُوْلُ اللهِ

(၃) အစ်ဂ်ျမာအေအွမ္မဒ် اِجْمَاعُ اُمَّتُ

(၄) ကယားစ် قَيَاس

---

မိုအာကီလ် - တာဝန်ပေးအပ်ခြင်းခံရသူ ဆိုလိုသည်မှာ သာသနာ့အာလင်မ်ပညာရှင်များနှင့် ကုန်အာန်ကျမ်းတော်မြတ် အာဂုံဆောင်သူများကို ဆိုလိုပါသည်။

# အဇဟာဒတ်အကြောင်း

အမေး – အစ္စလာမ်သာသနာတွင် အရေးကြီးဆုံးလိုက်နာကျင့်သုံးရမည့် ဖရပ်စ်အချက်ပေါင်းမည်မျှရှိပါသနည်း။

အဖြေ – အစ္စလာမ့်သာသနာတွင် မကျင့်သုံးမနေရသော ဖရပ်စ်အချက်ပေါင်း တစ်ရာ့သုံးဆယ် (၁၃၀) ရှိပါသည်။

အမေး – ၎င်းဖရပ်စ် တစ်ရာ့သုံးဆယ် (၁၃၀) ကိုရှင်းပြပါ။

အဖြေ – ၎င်းဖရပ်စ် တစ်ရာ့သုံးဆယ် (၁၃၀) မှာ–

(၁) အလ္လာဟ်နှင့် အလ္လာဟ်ရစူလ်ကို အီမာန် သက်ဝင်ယုံကြည်ခြင်း။
(၂) ရမ်ဇန်လ (ဆွိုယမ်) ဥပုသ် (ခ) ရိုဇာ (၃၀) ရက်၊
(၃) ရမ်ဇန်လ (ဆွိုယမ်) ဥပုသ် (ခ) ရိုဇာနိယတ် (၃၀)၊
(၄) ဂိုစ္စတ်လ် (ရေချိုးခြင်း) ရှိ ဖရပ်စ် (၃) ချက်၊
(၅) ဝူဇူပြုရာတွင် ဖရပ်စ် (၃) ချက်၊
(၆) သယမ်မွမ်ပြုရာတွင် ဖရပ်စ် (၃) ချက်၊
(၇) စွလားသ် (နမာဇ်) ဝတ်ပြုရာတွင် အတွင်းအပြင် ဖရပ်စ် (၁၃) ချက်၊
(၈) စွလားသ် (နမာဇ်) ဖရပ်စ်ရကာအတ်ပေါင်း (၁၇) ရကာအတ်၊
(၉) စွလားသ် (နမာဇ်) ငါးကြိမ်အချိန်သိခြင်း၊ (၅) ချိန်၊
(၁၀) အစ္စလာမ့်မဏ္ဍိုင်ကြီး (၅) ချက်၊
(၁၁) အီမာန်ယုံကြည်မှု (၇) ချက်၊
(၁၂) ကွတ်ရ်အ်စီတော် (တမန်တော်မြတ် (စွ) အနွယ်တော် (၄) ပါး)
(၁၃) မတ်ဇ်ဟတ်ဗ် (အေမာမ်ကြီး) (၄) ပါး၊
(၁၄) စွလားသ်(နမာဇ်) ငါးကြိမ်များ၏နိယတ်(၅) ချက်စသည့်တို့ဖြစ်ပါသည်။

အမေး – မွတ်စလင်မ်တို့၏ အဓိကဝတ်ပြုမှုကို ဖော်ပြပါ။

အဖြေ – မွတ်စလင်မ်တို့၏ အဓိက ဝတ်ပြုမှုမှာ– နမားဇ်နှင့် ရိုဇာပင်ဖြစ်သည်။

အမေး – မည်သူတို့အပေါ် နမာဇ်တာဝန်ရှိပါသလဲ။

အဖြေ – အရွယ်ရောက်သူ မွတ်စလင်မ်အမျိုးသား၊ အမျိုးသမီးတိုင်းအပေါ် တာဝန်ရှိပါသည်။

အမေး – စွလားသ် ဝတ်မတက်မီ မည်သည့် သန့်ရှင်းမှုမျိုး ပြုရပါသနည်း။

အဖြေ – စွလားသ် ဝတ်မတက်မီ ခန္ဓာကိုယ်၊ အဝတ်အစားနှင့် နေရာသန့်ပြန့်အောင်ပြုရပါသည်။

အမေး – ဂိုစွလ်ရေချိုးရာတွင် ဖရပ်စ် (၃) ခုကိုဖြေပြပါ။

အဖြေ – ဂိုစွလ်ရေချိုးရာတွင် ဖရပ်စ် (၃) ခုမှာ–

(၁) ပလုပ်ကျင်းခြင်း (အာခေါင်ထိ) (၂) နှာခေါင်းဆေးခြင်း (နှာနုထိ) နှင့်

(၃) တစ်ကိုယ်လုံးစိုရွဲအောင် ရေလောင်းချိုးခြင်း တို့ဖြစ်ပါသည်။

အမေး – ဝူဇူတွင်ရှိ ဖရပ်စ် (၄) ခုကို ဖော်ပြပါ။

အဖြေ – ဝူဇူတွင်ရှိ ဖရပ်စ် (၄) ခုမှာ–

(၁) မျက်နှာသစ်ခြင်း၊

(၂) လက်နှစ်ဖက်ကို တစ်တောင်ဆစ်ပါ ဆေးကြောခြင်း၊

(၃) ဦးခေါင်း၏ ၄ ပုံ ၁ ပုံကို မစာပွတ်သခြင်း၊

(၄) ခြေ (၂) ဖက်ကို ခြေမျက်စိပါ ဆေးကြောခြင်း တို့ဖြစ်ပါသည်။

အမေး - ဝူဇူပျက်စေသော အချက်များကို ဖော်ပြပါ။

အဖြေ - ဝူဇူပျက်သွားစေသော အချက်ရှစ်ချက်ရှိပါသည်။ ၎င်းတို့မှာ -

(၁) ကျင်ကြီးကျင်ငယ်စွန့်ခြင်း (သို့မဟုတ်) ဒွါရများမှ တစ်စုံတစ်ရာထွက်ခြင်း၊

(၂) လေလည်ခြင်း၊

(၃) ကိုယ်ခန္ဓာမှ သွေး၊ ပြည်စသည်တို့ထွက်၍ စီးတွေခြင်း၊

(၄) ခံတွင်းအပြည့်အန်ခြင်း၊

(၅) မှီလျက်ဖြစ်စေ၊ လဲလျောင်းလျက်ဖြစ်စေ၊ အိပ်ပျော်သွားခြင်း၊

(၆) အကြောင်းတစ်ခုခုကြောင့် မူး၍ သတိလစ်သွားခြင်း၊

(၇) ရူးသွပ်သွားခြင်းနှင့်

(၈) နမာဇ်ဝတ်ပြုနေစဉ် အသံထွက်ရယ်မောခြင်း

(ဝူဇူအတွက်ရေ ၇၅-ကျပ်သားမှ ၁-ပိဿာခန့်သာ သုံးရမည်။)

အမေး – ဝတ်မပြုမီ အသင့်ဖြစ်ရမည့် ဖရပ်စ် အချက် (၇) ချက်ကို ဖော်ပြပါ။

အဖြေ – ဝတ်မပြုမီ အသင့်ဖြစ်ရမည့် ဖရပ်စ် အချက် (၇) ချက်မှာ–

(၁) နေရာသန့်ရှင်းစင်ကြယ်ရမည်

(၂) အဝတ်အစား သန့်ပြန့်ရမည်

(၃) ကိုယ်ခန္ဓာသန့်ပြန့်ရမည်

(၄) အရှက်ကို ဖုံးအုပ်စေရမည်

(၅) အချိန်သိရမည်

(၆) အနောက် (ကစ်ဗလာ) ဖက်သို့ မျက်နှာမူရမည်

(၇) နိယတ်ဆန္ဒပြု ရည်စူးရပါမည်။

အမေး – နမာဇ်ငါးကြိမ်အမည်ကို ဖော်ပြပါ။

အဖြေ – နမာဇ်ငါးကြိမ်၏အမည်မှာ–

(၁) ဖဂျ်ရ် (၂) ဇိုဟ်ရ် (၃) အဆွ်ရ်
(၄) မဂ်ရိဗ် (၅) အေရှာ တို့ဖြစ်ပါသည်

အမေး – ကျွန်ုပ်တို့အဘယ့်ကြောင့် အနောက်အရပ်သို့ မျက်နှာပြု၍ ဝတ်ပြုရပါသနည်း။

အဖြေ – ကာအ်ဘာကျောင်းတော်တည်ရှိသော မက္ကာမြို့တော်သည် မြန်မာနိုင်ငံ၏ အနောက်အရပ်တွင် တည်ရှိသောကြောင့် ကျွန်ုပ်တို့သည် ထိုကာအ်ဘာကျောင်းတော် (**ဗိုင်တွလ္လာ**) ဘက်သို့ မျက်နှာမူ၍ ဝတ်ပြုရခြင်းဖြစ်ပါသည်။

အမေး – မည်သည့်နေရာတွင် နမာဇ်ဝတ်ပြုက ပို၍ ကုသိုလ်ရပါသနည်း။

အဖြေ – ဗလီဝတ်ကျောင်းတော်သို့ သွား၍ ဝတ်ပြုပါက ပို၍ကုသိုလ်ရပါသည်။

အမေး – နမာဇ်၏ အကျိုးကျေးဇူးများကို ဖော်ပြပါ။

အဖြေ – နမာဇ်၏ အကျိုးကျေးဇူးများမှာ–

(၁) နမာဇ်ဝတ်ပြုသူ၏ ကိုယ်ခန္ဓာနှင့် အဝတ်သည် အမြဲသန့်ရှင်းစင်ကြယ်စွာ ရှိ၏။

(၂) နမာဇ်ဝတ်ပြုသူကို အလ္လာဟ်အရှင် နှစ်မြို့တော်မူ၏။

(၃) နမာဇ်ဝတ်ပြုသူကို တမန်တော်မြတ်ကလည်း နှစ်မြို့တော်မူ၏။

(၄) နမာဇ်ဝတ်ပြုသူများသည် အလ္လာဟ်အရှင်မြတ်ထံတော်ဝယ် သူတော်ကောင်းများဖြစ်ကြပါသည်။

(၅) နမာဇ်ဝတ်ပြုသူကို သူတော်စင်အပေါင်းတို့က လေးစားကြပါသည်။

အမေး – ဂျမာအတ်သ်ဆိုသည်ကား အဘယ်နည်း။

အဖြေ – လူအများစုရုံး၍ နမာဇ်ဝတ်ပြုခြင်းကို **"ဂျမာအတ်သ်"** ဟုခေါ်ပါသည်။

အမေး – ရှေ့ဆောင်ဝတ်ပြုသူကို မည်သို့ခေါ်ဆိုပါသနည်း။

အဖြေ – ရှေ့ဆောင်ဝတ်ပြုသူကို **" အေမာမ် "** ဟုခေါ်ပါသည်။

အမေး – ဗလီတွင် မည်သည့်အလုပ်များပြုရပါသနည်း။

အဖြေ – ဗလီတွင်နမာဇ်ဝတ်ပြုရပါသည်။ကုရ်အာန်ဖတ်ရပါသည်။အခြားကျမ်းစာနှင့် ဇိကစ်ရ်၊ ဒရူးဒ်များ ရွတ်ဖတ်နေရပါသည်။ (သို့မဟုတ်) ငြိမ်သက်စွာထိုင်နေရပါသည်။

အမေး – ဗလီတွင် ပြေးလွှားဆော့ကစားလို့ ရပါသလား။

အဖြေ – ဗလီတွင် ပြေးလွှားဆော့ကစားခြင်း မပြုရ။

အမေး - နမားဇ်ဝတ်ပြုနည်းကို ပြောပြပါ။

အဖြေ - ရှေးဦးစွာ ဝူဇူပြု၍ သန့်ရှင်းစင်ကြယ်သော အဝတ်ကိုဝတ်ဆင်ပါ။ အမျိုးသမီးဖြစ်ပါက တစ်ကိုယ်လုံး လုံခြုံအောင် ဖုံးပေးရမည်။ ပြီးနောက် ကစ်ဗလာဖက်သို့ မျက်နှာမူ၍ နိယတ်ပြုပြီး လက်နှစ်ဖက်ကို နားနုအထိ အလ္လာဟ်ဟိုအတ်က်ဗရ် ဆို၍ ပင့်မြှောက်ပါ။ အမျိုးသမီးဖြစ်က ပခုံးထိသာမြှောက်ပါ။ တစ်ဖန်လက်နှစ်ဖက်ကိုချက်အောက်တွင် ဘယ်လက်ပေါ် ညာလက်တင်၍ ဆုပ်ကိုင်ထားပါ။ (အမျိုးသမီးများမှာ ရင်ဘက်ပေါ်တွင်ထားရမည်။) ပြီးနောက် စနာရွတ်ဆိုရမည်။ ပြီးလျှင် အာအူဇိုနှင့် ဗစ်မစ်လ္လာဟ်ဖတ်ရမည်။ ပြီးနောက် စူရာဖာတေဟာ (အလ်ဟမ်ဒို)ကို အစအဆုံးရွတ်ဆို၍ စူရာတပုဒ်တွဲပေးရမည်။ ပြီးလျှင် **အလ္လာဟ်ဟိုအတ်က်ဗရ်** ဆို၍ ရကူသွားပါ ရကူတွင် **စွတ်ဗဟားနာရဗေယာလ်အာဇွီးမ်** (၃) ကြိမ် (သို့မဟုတ်) (၅) ကြိမ်ရွတ်ဆိုပါ။ တစ်ဖန် **စာမိအလ္လာဟ်ဟိုလေမာန်ဟာမိဒါ** ဆို၍ရပ်ပါ။ ရပ်ချိန်တွင် **ရပ်ဗာနာလာကလ်ဟမ်ဒ်** ဆိုပြီး **အလ္လာဟ်ဟိုအတ်က်ဗရ်** ဆို၍ စဂျီဒါသွားပါ။ စဂျီဒါတွင် **စွတ်ဗဟားနာရတ်ဘေယာလ်အတ်အ်လာ** (၃) ကြိမ် (သို့မဟုတ်) (၅) ကြိမ်ဆိုပါ။ ဤနည်းအတိုင်း စဂျီဒါ(၂) ခါပြုပါ။ ပြီးလျှင် အလ္လာဟ်ဟိုအတ်က်ဗရ် ဆို၍ မတ်တပ်ရပ်ပါ ဤတွင် တစ်ရကာအတ်ပြီး၏။ ဒုတိယ ရကာအတ်အတွက် တခါအလ်ဟမ်ဒိုနှင့် စူရာတွဲဆိုပါ။ ပြီးလျှင် တင်ပြထားသည့်အတိုင်း ရကူ၊ စဂျီဒါပြု၍ ကာအေဒါထိုင်ပါ။ ကာအေဒါထိုင်သောအခါ ဘယ်ခြေထောက်ကိုခင်း၍ ညာခြေကို ညာဘက်ထုတ်၍ ဘယ်ခြေပေါ်ညာခြေတင်ထားပါ။ အမျိုးသားများမှာ ဘယ်ခြေကိုခု ထိုင်ပြီးညာခြေကို ထောက်လျက်ထားစေပါ။ ကာအေဒါတွင် အတ်တာဟီးယား၊ ဒရူးဒ်ရှရီးဖ်နှင့် ဒိုအာများရွတ်ဆို၍ စလာမ်လှည့်ပါ။ စလာမ်လှည့်သောအခါ ညာဘက်ကစ၍ လှည့်ပါ။ စလာမ်လှည့်ချိန် မိမိပခုံးကိုသာကြည့်ရမည်။ ဤတွင် ၂ ရကာအတ်နာမားဇ်ဖြစ်၏။

မှတ်ရန်။ စဂျီဒါပြုသောအခါ ပထမနှာခေါင်းအရင်ချ၍ နှဖူးကိုနောက်မှချရမည်။ စဂျီဒါမှထသောအခါ နှဖူးကိုအရင်ကြွ၍ နှာခေါင်းကို နောက်မှကြွရမည်။

အမေး - (၃-၄) ရကာအတ်နမားဇ်ဖတ်နည်းကို ပြောပြပါ။

အဖြေ - အထက်တွင်ဖော်ပြထားသည့်အတိုင်း (၂) ရကာအတ်သ်နမားဇ်ကို ဖတ်ပြီးသောအခါထိုင်ပါ။ ထိုင်သောအခါတွင် (၂) ရကာအတ်နမားဇ်ကဲ့သို့ အတ္တားဟီးယား၊

ဒရူး၁် ဒိုအာအားလုံး မဖတ်လေနှင့် "အတ္တားဟီးယား" အစအဆုံးတစ်ပုဒ်သာ ဖတ်ပြီး "အလ္လာဟ်ဟိုအက်ဘ်ဗရ်" ဟုဆို၍ရုပ်လိုက်ပါ၊ မိမိဖတ်ချင်သောရကာအတ် အတွက် အလ်ဟမ်ဒိုနှင့် စူရာဖတ်၍ နမား‌ဇ်ကိုဖော်ပြပါအတိုင်း အဆုံးသတ်ပါ။ အကယ်၍ (၄) ရကာအတ်ဖတ်ချင်လျှင် ပထမ ရကာအတ်ကို အလ်ဟမ်ဒိုနှင့် စူရာတွဲဖတ်ပြီး ရကူ၊ စဂျိဒါသွားပါ။ ပြီးထိုင်မနေဘဲ " အလ္လာဟ်ဟိုအတ်ကဘ်ဗရ်" ဆို၍ စတုတ္ထရကာအတ်သ်အတွက် နမား‌ဇ်အဆုံးသတ်သကဲ့သို့ ပြုလုပ်ပါက (၃–၄) ရကာအတ်သ် နမား‌ဇ်ဖတ်နည်း ပြီးမြောက်၏။

<u>မှတ်ရန်။</u> စွန္နတ်နှင့် နဖိလ်နမား‌ဇ်များအတွက် ရကာအတ်သ်တိုင်း အလ်ဟမ်ဒို နှင့်စူရာတွဲပေးရသည်။

ဖရုပ်စ်နမား‌ဇ်မှာမူကား (၄) ရကာအတ်သ် (သို့မဟုတ်) + (၃) – ရကာအတ်သ် ဖြစ်လျှင် ပထမ (၂) ရကာအတ်သ်သာ အလ်ဟမ်ဒိုနှင့် စူရာတွဲပေးရသည်။ ကျန် (၂) ရကာအတ်သ် (သို့မဟုတ်) ၁ – ရကာအတ်သ်ကိုမူ အလ်ဟမ်ဒို တစ်ပုဒ်သာ ဖတ်ပေးရမည်။

အမေး – သပ်စ်ဗီဖွာတွေမာဆိုတာဘာလဲ။

အဖြေ – တမန်တော်မြတ် (စွ) က မိမိ၏ အချစ်တော်သမီး ဖာတွေမာသခင်မကို လက်ဆောင်ပေးသော "သပ်စ်ဗီ" ဖြစ်သည်။

အမေး – သပ်စ်ဗီ ဖာတွေမာကို မည်သည့်အခါ ရွတ်ဆိုလျှင် အကျိုးမည်သို့ရပါသနည်း။

အဖြေ – သပ်စ်ဗီ ဖာတွေမာကို အိပ်ခါနီးတွင်ဆိုသော် တစ်ညလုံး လူတစ်ဦးက လာရောက်နှိပ်နယ်ပေးသကဲ့သို့ ခံစားရပါသည်။ နမား‌ဇ်များဖတ်ပြီး ရွတ်ဆိုပါကလည်း အကျိုးကုသိုလ်များစွာ ရပါသည်။

အမေး – သပ်စ်ဗီ ဖာတွေမာကို ဖော်ပြပါ။

အဖြေ – သပ်စ်ဗီ ဖာတွေမာမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(၁) سُبْحَانَ اللّٰهِ (၃၃) ကြိမ်

(၂) اَلْحَمْدُ لِلّٰهِ (၃၃) ကြိမ်

(၃) اَللّٰهُ اَكْبَرُ (၃၄) ကြိမ်စသည်တို့ဖြစ်ပါသည်။

**အမေး** – နဂျာစသ်ဆိုသည်မှာ အဘာယ်နည်း။

အဖြေ – နဂျာစသ်ဆိုသည်မှာ မသန့်သောအရာကို ခေါ်ပါသည်။

အမေး – နဂျာစသ် (သို့မဟုတ်) မသန့်ဘယ်နှစ်မျိုးရှိပါသနည်း။

အဖြေ – နဂျာစသ်နှစ်မျိုး ရှိပါသည်။

အမေး – နဂျာစသ်နှစ်မျိုးကိုဖော်ပြပါ။

အဖြေ – နဂျာစသ်နှစ်မျိုး အမည်မှာ–
(၁) နဂျာစသ်ဟကေကီနှင့် (၂) နဂျာစသ်ဟွတ်ကမီး တို့ဖြစ်ပါသည်။

**အမေး** – နဂျာစသ်ဟကေကီကိုရှင်းပြပါ။

အဖြေ – နဂျာစသ်ဟကေကီ ဆိုသည်မှာ နဂိုမူလကတည်းက ညစ်ညမ်းသောအရာကို ခေါ်ပါသည်။

အမေး – နဂျာစသ်ဟကေကီ မည်မျှ ရှိသနည်း။

အဖြေ – နဂျာစသ်ဟကေကီ နှစ်မျိုးရှိပါသည်။

**အမေး** – နဂျာစသ်ဟကေကီ နှစ်မျိုးကိုဖော်ပြပါ။

**အဖြေ** – **နဂျာစသ်ဟကေကီ** နှစ်မျိုးမှာ
(၁) နဂျာစသ်ကလီဇွာ နှင့် (၂) နဂျာစသ်ခဖီဖာ တို့ဖြစ်ပါသည်။

အမေး – နဂျာစသ်ကလီဇွာ ကိုရှင်းပြပါ။

အဖြေ – နဂျာစသ်ကလီဇွာ ဆိုသည်မှာ အလွန်ညစ်ညမ်းသော အညစ်အကြေးကိုခေါ်ပါသည်။ ဥပမာ– လူတို့၏ကျင်ကြီး၊ ကျင်ငယ်၊ တိရစ္ဆာန်များ၏ နောက်ချေး၊ စားမပိုင်သော တိရစ္ဆာန်များ၏ သေး၊ သွေး၊ အရက်၊ ကြက်ချေး၊ ဘဲချေး။

အမေး – နဂျာစသ်ခဖီဖာကို ရှင်းပြပါ။

အဖြေ – နဂျာစသ်ခဖီဖာ ဆိုသည်မှာ အနည်းငယ်ညစ်ညမ်းသော သာမန်အညစ် အကြေးကိုခေါ်ပါသည်။
ဥပမာ– စားပိုင်ခွင့်ရှိသော တိရစ္ဆာန်များ၏ကျင်ငယ်ရည်၊ စားမပိုင်သော ငှက်များ၏ နောက်ချေး။

အမေး – နဂျာစသ်ခလီဇွာ မည်မျှပေကျံလျှင် ခွင့်လွှတ်ချက်ရှိပါသနည်း။

အဖြေ – နဂျာစသ်ခလီဇွာမှာ အစိုင်အခဲဖြစ်လျှင် ရွှေး ၃၀ (သုံးဆယ်သားခန့်) အထိပေလျှင် ခွင့်လွှတ်ချက်ရှိသည်။

အမေး – နဂျာစသ်ခလိဗ္ဗာမှာ အရည်ဖြစ်နေလျှင် မည်မျှပေကျံက ခွင့်လွှတ်ချက် ရှိပ သနည်း။

အဖြေ – နဂျာစသ်ခလိဗ္ဗာမှာ အရည်ဖြစ်နေလျှင်အင်္ဂလိပ်ငွေဒင်္ဂါးခန့်မျှပေလျှင် ခွင့်လွှတ်ချက်ရှိသည်။

အမေး – နဂျာစသ်ခဖိဖာ မည်မျှပေကျံလျှင် ခွင့်လွှတ်ချက်ရှိသနည်း။

အဖြေ – နဂျာစသ်ခဖိဖာ မှာ အရည်ဖြစ်နေလျှင် အစိတ်အပိုင်း၏ ၄ ပုံ ၁ ပုံခန့်မျှပေလျှင် ခွင့်လွှတ်ချက်ရှိသည်။

အမေး – နဂျာစသ်ခဖိဖာမှာ အစိုင်အခဲဖြစ်နေလျှင် မည်မျှပေကျံက ခွင့်လွှတ်ချက်ရှိပ သနည်း။

အဖြေ – နဂျာစသ်ခဖိဖာမှာ အစိုင်အခဲဖြစ်နေလျှင် ရွှေး ၃၀ (သုံးဆယ်သားခန့်မျှ) အထိ ပေလျှင် ခွင့်လွှတ်ချက်ရှိပါသည်။

အမေး – နဂျာစသ်ဟွတ်ကမီးကိုရှင်းပြပါ။

အဖြေ – နဂျာစသ်ဟွတ်ကမီးဆိုသည်မှာ ရှရီအသ်တရားတော်အရ ၄င်းအရာများဖြစ်ပေါ် လာလျှင်မသန့်ဟုမှတ်ယူရသော ညစ်ညမ်းမှုကိုခေါ် ဆိုပါသည်။

အမေး – နဂျာစသ်ဟွတ်ကမီးမည်မျှရှိပါသနည်း။

အဖြေ – နဂျာစသ်ဟွတ်ကမီးနှစ်မျိုးရှိပါသည်။

အမေး – နဂျာစသ်ဟွတ်ကမီးနှစ်မျိုးကို ဖော်ပြပါ။

အဖြေ – နဂျာစသ်ဟွတ်ကမီးနှစ်မျိုးမှာ–

(၁) ဟာဒစေအတ်က်ဗရ် နှင့် (၂) ဟာဒစေအပ်စ်ဂရ် တို့ဖြစ်ပါသည်၊

အမေး – ဟာဒစေအတ်က်ဗရ် ကိုရှင်းပြပါ။

အဖြေ – ဟာဒစေအတ်က်ဗရ် ဆိုသည်မှာ ရှရီအသ်တရားတော်အရ အထူးညစ်ညမ်းသော အရာကို ခေါ်ပါသည်။

ဥပမာ– အမျိုးသမီးများ ကလေးမီးဖွားပြီးသောအခါ ကိုယ်မသန့်ဖြစ်ခြင်း။

အမေး – ဟာဒစေအပ်စ်ဂရ် ကိုရှင်းပြပါ။

အဖြေ – ဟာဒစေအပ်စ်ဂရ် ဆိုသည်မှာ ရှရီအသ်တရားတော်အရ သာမန် ညစ်ညမ်းမှုကို ခေါ်ပါသည်။ ဥပမာ – ဝူဇူမရှိဘဲ နေခြင်း။

အမေး - ဟာဒစေအတ်က်ဗရ် ဖြစ်ပေါ်လျှင် မည်သို့သန့်ရှင်းရမည်နည်း။

အဖြေ - ဟာဒစေအတ်က်ဗရ် ဖြစ်ပေါ်လျှင် ရေချိုးမှသာ သန့်သွားပေမည်။

အမေး - ဟာဒစေအပ်စ်ဂရ် ဖြစ်ပေါ်လျှင် မည်သို့သန့်ရှင်းရမည်နည်း။

အဖြေ - ဟာဒစေအပ်စ်ဂရ် ဖြစ်ပေါ်လျှင် ဝူဇူပြုခြင်းဖြင့် သန့်ရှင်းလာပါသည်။

အမေး - အသုံးပြုခွင့်ရှိသော ရေများကိုဖော်ပြပါ။

အဖြေ - မိုးရေ ၊ စမ်းရေ၊ တွင်းရေ၊ ချောင်းရေ၊ ပင်လယ်ရေ၊ သမုဒ္ဒရာရေ၊ ရေခဲရေ၊ နှင်းရေ၊ ကန်ရေ၊ ရေလှောင်ကန်အတွင်းရှိရေ စသည်တို့ဖြစ်ပါသည်။

အမေး - အစ္စလာမ့်ရှရီအတ်တရားဆိုင်ရာဝေါဟာရများကိုဖော်ပြပါ။

အဖြေ - အစ္စလာမ့်ရှရီအတ်တရားဆိုင်ရာဝေါဟာရများမှာ- ဖရပ်စ်၊ ဝါဂျစ်ဗ်၊စွန္နတ်၊ နဖစ်လ်၊ မွတ်စ်တာဟတ်ဗ်၊ မိုဗါဟ်၊ ဟာလာလ်၊ ဟာရာမ်၊ မက္ကရူဟ် စသည်တို့ ဖြစ်သည်။

အမေး - စောင်မ် (သို့မဟုတ်) ရိုဇာဆိုသည်မှာ အဘယ်နည်း။

အဖြေ - စောင်မ် ( ရိုဇာ) ဆိုသည်မှာ နိယတ်ပြု၍ နံနက်မိုးသောက်ချိန်မှ နေဝင်ချိန်အထိ စားသောက်မှုနှင့် ကာမဂုဏ်စွန့်လွှတ်ခြင်းကို ရိုဇာ (စောင်မ်) ဥပုသ် စောင့်ထိန်းခြင်းဟုခေါ်သည်။

အမေး - ရိုဇာဟ်ထားရန် မည်သူ့အပေါ် တာဝန်ရှိပါသနည်း။

အဖြေ - ရိုဇာဟ်ထားရန် အရွယ်ရောက်သူ မွတ်စ်လင်မ် အမျိုးသား၊ အမျိုးသမီးတိုင်း အပေါ် ဖရပ်စ် မပြုမနေရသော တာဝန်တစ်ရပ်ဖြစ်ပါသည်။

အမေး - ဇကာ့သ်နိဆားဗ်မည်မျှနည်း။

အဖြေ - လူတစ်ဦးတွင် ရွှေ (၅) ကျပ်သား (၁၀) ပဲ (သို့မဟုတ်) ငွေ (၄၀) ကျပ်သား ကျော်ကျော်မျှ ပိုင်ဆိုင်သူကို " နိဆားဗ် " ပိုင်ရှင်ဟုခေါ်၏။

အမေး - မည်သူတို့အပေါ် ဇကာ့သ်ပေးရန် တာဝန်ရှိပါသနည်း။

အဖြေ - ဥစ္စာပစ္စည်းကြွယ်ဝ၍ " နိဆားဗ် " မျှ ပစ္စည်းရှိသောသူ၊ ၎င်းပစ္စည်းတစ်နှစ်တာမျှ လက်ဝယ်ရှိသောသူများ ဇကာ့သ်ပေးရန် တာဝန်ရှိပါသည်။

အမေး - မည်သူတို့ကို ဇကာ့သ်ပေးရမည်နည်း။

အဖြေ - မရှိဆင်းရဲသားများ၊ မိဘမဲ့ကလေးများ၊ ပစ္စည်းမဲ့ မုဆိုးမများကို ပေးရပါသည်။

အမေး - **ဇကာ့သ်ငွေကို ဗလီဆောက်လုပ်ခြင်း၊ စာသင်ကျောင်းဆောက်လုပ်ခြင်းနှင့် နာရေးများတွင် ပေးပိုင်ခွင့်ရှိပါသလား။**

အဖြေ - ဇကာ့သ်ငွေကို ဗလီဆောက်လုပ်ခြင်း၊ စာသင်ကျောင်း ဆောက်လုပ်ခြင်းနှင့် နာရေးများတွင် ပေးပိုင်ခွင့်မရှိပါ။

အမေး - **ဖစ်သရာဟ်** ဟူသည်ကား အဘယ်နည်း။

အဖြေ - **ဖစ်သရာဟ်** ဟူသည်မှာ အာရဗီစကားဖြစ်၍ ဝါဖြေခြင်း(သို့မဟုတ်)ရိုဇာဟ်မစောင့်ဘဲနေခြင်းဟု အဓိပ္ပါယ်ရပါသည်။ ရမ်ဇန်လကုန်ဆုံး၍ ဝါကျွတ်သဖြင့် ဝမ်းသာအားရ ကျေးဇူးတင်သောအားဖြင့် ပေးဆောင်ရန် အလ္လာဟ်အရှင်မြတ်က အလှူဒါနတစ်ခုကို သတ်မှတ်ပေးထားတော်မူ၏။ ထိုအလှူဒါနကို ဖစ်သရာဟ်ဟု ခေါ်၏။

အမေး - ရိုဇာဟ်မထားသူလည်း ဖစ်သရာဟ်ပေးဆောင်ရမည်လား။

အဖြေ - ရိုဇာဟ်မထားပေမဲ့လည်း တတ်နိုင်လျှင် **ဖစ်သရာဟ်** ပေးဆောင်ရမည်။

အမေး - **ဖစ်သရာဟ်** ကို ဆန်ဖြင့်ပေးလိုလျှင် မည်မျှပေးရမည်နည်း။

အဖြေ - **ဖစ်သရာဟ်** ကို ဆန်ဖြင့်ပေးလိုလျှင် တစ်ဦးအတွက် မုယောဆန် (၃၂၀) ကျပ်သားစီပေးရမည်။

# ပထမတန်း

# အစ္စလာမ်မ်ိအာဒါးဗ်

(၀၁)

# အစ္စလာမ်ယဥ်ကျေးမှု

# သင်ခန်းစာ (၁)

## " စလာမ်မေတ္တာ၏ နည်းများ "

၁။ နဗီအပေါင်းတို့၏ခေါင်းဆောင် ကိုယ်တော်မြတ်(စွ) သခင် မိန့်မြွက်တော်မူခဲ့၏။ အရှင်မြတ်နှင့် အနီးကပ်ဆုံးသောသူသည် သူတစ်ပါး၏စလာမ်ကို မစောင့်ဆိုင်းဘဲ ဦးစွာ စလာမ်ပြုသူဖြစ်၏။

၂။ အစ္စလာမ်သာသနာတော်၏ အမြတ်ဆုံးသောအလုပ်သည် သူဆင်းရဲများအား ကျွေးမွေးခြင်းဖြစ်၏။ ထို့ပြင် မွတ်စ်လင်မ်တိုင်းအား သိကျွမ်းသည်ဖြစ်စေ၊ မသိကျွမ်းသည်ဖြစ်စေ စလာမ်ပို့သခြင်း ဖြစ်ပေသည်။

၃။ နှုတ်ခွန်းဆက်မည့်အလျှင် စလာမ်ပြုရပေ၏။ (သစ်ရ်မေဇီကျမ်း)

၄။ ဦးစွာစလာမ်ပြုရန်မှာ အစီးအနင်းရှိသူသည် လမ်းလျှောက်သူအား၊ လမ်းလျှောက်သောသူသည် ထိုင်နေသူအား၊ လူနည်းစုသည် လူများစုအား၊ လူငယ်သည် လူကြီးအား စလာမ် စတင်ရ၏။

၅။ ဂျူးနှင့် ခရစ်ယာန်အား စလာမ်မပြုရ။ (မွတ်စ်လင်မ်ကျမ်း) ဘာသာခြားတိုင်းသည် ထိုအမိန့်၌ ပါဝင်လေသည်။

၆။ မွတ်စ်လင်မ်ညီနောင်တစ်ဦးအား စလာမ်ပြု၍ သစ်ပင်သော်လည်းကောင်း၊ အုတ်နံရံသော်လည်းကောင်း၊ အနည်းငယ်အချိန်သော်လည်းကောင်း၊ ခြားနား၍ ထပ်မံတွေ့ဆုံခဲ့ပါမူ ထပ်လောင်းစလာမ်ပြုရပေ၏။ (အဗူဒါဝူးဒ်ကျမ်း) ထိုသို့ ပြန်လည်တွေ့ဆုံသောအခါ အနည်းငယ်ကြန့်ကြာသေးသည်သာ ဖြစ်၍ဟု မထင်မှတ်ရပေ။ စလာမ်ကို ထပ်လောင်း ပေးလိုက်ရမည်။

၇။ တစ်ဦးတစ်ယောက်သောအိမ်သို့ ဝင်သောအခါ အိမ်သူအိမ်သားများအား စလာမ်ပြုပါလေ။ တစ်ဖန် ထိုနေရာမှ ထွက်ခွာသွားသောအခါ ၄င်းအား စလာမ်ဖြင့် ခွင့်ပန်ပါ။ (ဗိုင်ဟကီကျမ်း)

၈။ မိမိအိမ်သို့ ဝင်ရောက်သောအခါ အိမ်သူအိမ်သားများအား စလာမ်ပေးပါ။ ထိုသို့ စလာမ်ပြုခြင်းအားဖြင့် အသင်နှင့်တကွ အိမ်သူအိမ်သားများအား မင်္ဂလာ ပွားများစေ၏။ (သစ်ရ်မေဇီကျမ်း)

၉။ တစ်ဦးတစ်ယောက်က စလာမ်ပါးလိုက်လျှင် တစ်ဆင့်ပို့ဆောင်သူအား

وَعَلَيْكَ وَعَلَيْهِ السَّلَامُ ဟုဖြေကြားရ၏။ (နဆာအီကျမ်း)

၁၀။ မကျန်းမာသူအား တွေ့ဆုံမေးမြန်းရာ၌ လူမမာ၏ နဖူးပေါ်လက်တင်၍ မေးမြန်းခြင်းသည်သာ ပြည့်စုံသော မေးမြန်းခြင်းဖြစ်၏။ ထိုအပြင် အမြတ်ဆုံးသော နှုတ်ဆက်ခြင်းမှာ လက်ဆွဲ နှုတ်ဆက်ခြင်းပင်ဖြစ်သည်။ (အတ်ဟ်မဒ်ကျမ်း)

၁၁။ မွတ်စ်လင်နှစ်ဦး လက်ခြင်းဆက် နှုတ်ခွန်းဆက်သသော် အရှင်မြတ်သည် ၎င်းတို့နှစ်ဦး ခွဲခွာမည့် အလျင်၎င်းတို့၏ အကုသိုလ်အသေးအဖွဲ့များကို မလွဲကေန် ချွတ်ကယ်တော်မူ၏ (သစ်ရ်မေဇီကျမ်း)

၁၂။ မွတ်စ်လင်မ်နှစ်ဦး လက်ဆွဲ နှုတ်ခွန်းဆက်သသောအခါ ရွတ်ဖတ်ရန် ဒိုအာမှာ "ယဂ်ဖေရွလ္လာဟုလနာဝလကွမ်" ဖြစ်၏။

يَغْفِرُ اللهُ لَنَا وَلَكُمْ

<u>လေ့ကျင့်ခန်း (၁)</u>

(၁) အရှင်မြတ်နှင့်အနီးကပ်ဆုံးသောသူသည် မည်သူနည်း။
(၂) မည်သူတို့က မည်သူတို့အား စလာမ်စတင်ပေးရမည်နည်း။
(၃) စလာမ် မည်ကဲ့သို့ဆို၍ ပြန်ဖြေရမည်နည်း။
(၄) အစ္စလာမ်၏ အကောင်းဆုံးသောအလုပ်သည် အဘယ်အရာနည်း။
(၅) ကာဖစ်ရ်မွတ်ရှ်ရိုးက်များကို စလာမ်ပေးပိုင်ပါသလား။
(၆) မိမိအိမ်သို့ဝင်သောအခါ အဘယ်ကြောင့် စလာမ်ပေးရပါသနည်း။
(၇) စလာမ်၏ပြည့်စုံမှုကား အဘယ်နည်း။
(၈) မွတ်စလင်မ်နှစ်ဦး လက်ဆွဲနှုတ်ဆက်ခြင်းသည် အဘယ်နည်း။

# သင်ခန်းစာ (၂)

## နှာချေခြင်းနှင့် သမ်းခြင်း၏ ပညတ်တော်များ

(၁) တမန်တော်မြတ် (စွ) မိန့်ကြားတော်မူ၏။ နှာချေသောအခါဝယ်

اَلْحَمْدُ لِلّٰهِ (အလ်ဟမ်ဒုလိလ္လာဟ်)ဟုဆိုရ၏။

(၂) ထို့နောက် နှာချေသံကြားသောအခါ အမျိုးသားဆိုလျှင်

يَرْحَمُكَ اللّٰهُ (ယရ်ဟမိုကလ္လာဟ်)

(အလ္လာဟ်ရှင် အသင့်အား သနားတော်မူပါ) ဟု ဆိုရ၏။

အမျိုးသမီးဆိုလျှင် يَرْحَمُكِ اللّٰهِ (ယရ်ဟမိုကိလ္လာဟ်) ဟုဆိုရ၏။

(၃) ထို့နောက် နှာချေသောသူသည် တုန့်ပြန်သောအားဖြင့်

يَهْدِيْكُمُ اللّٰهُ وَيُصْلِحُ بَالَكُمْ

(ယဟ်ဒီကုမ္မလ္လာဟု ဝယုတ်စ်လစ်ဟ်ဘာလကွန်မ်) ဟုဆိုရသည်။

(၄) ကိုယ်တော်မြတ်(စွ) အား နှာချေမှုပေါ်ပေါက်သောအခါ အသံထိန်းချုပ်စေသောအားဖြင့် မျက်နှာကိုလက် (သို့) ပုဝါဖြင့် ဖုံးအုပ်လေ့ရှိတော်မူခဲ့၏။ (သိစ်ရ်မေဇီကျမ်း)

(၅) ထို့ပြင်တမန်တော်မြတ် (စွ) မိန့်တော်မူသည်။ မောင်မင်းတို့သမ်းဝေသောအခါ လက်ဖြင့် ပါးစပ်ကိုဖုံးအုပ်ပါလေ။ အဘယ့်ကြောင့်ဆိုသော် သမ်းခြင်းကြောင့် ပါးစပ်ပွင့်သွားလျှင် မိစ္ဆာကောင်ဝင်ရောက်သွားတတ်သောကြောင့်ဖြစ်၏။ (မွတ်စ်လင်မ်ကျမ်း)

(၆) ထို့ပြင် ဩဝါဒတစ်ရပ်တွင် သမ်းဝေသောအခါ၌ "ဟား" အသံကို မပေါ်ထွက်လေနှင့်။ ထိုသို့ဖြစ်ပေါ်ခြင်းဖြင့် မိစ္ဆာကောင် ရယ်မောလေ၏။

## အိပ်မက်မြင်မက်ခြင်း၏ စည်းကမ်း

(၁) နဗီတမန်တော်ချုပ် မိုဟမ္မဒ် (စွ) မိန့်မြွက်တော်မူသည်။ မိမိနှစ်ခြိုက်စရာရှိသော အိမ်မက်မျိုးမြင်မက်သောအခါ မိမိကောင်းရာ လိုလားသူနှင့် ချစ်ဆွေမှ တစ်ပါး မည်သူ့ကိုမှ မဆင့်ပြန်ရ။

(၂) အကယ်၍ကြောက်မက်ဘွယ်ရာ အိပ်မက်မျိုးမြင်မက်လျှင်လက်ဝဲသို့ သုံးကြိမ် (စတိ) တံတွေးထွေးပါ။ ထို့နောက် မည်သူ့ကိုမျှမပြောနှင့် တစ်ဖက်သို့စောင်းအိပ်ပြီး

"အအူးဇိုဗစ်လ္လာဟော့ မေနတ်ရှိုင်တွာနစ်ရ်ရာဂျိမ်း" ဟု သုံးကြိမ်ဖတ်ပါ။ ထို့ပြင်၄င်း
အိပ်မက်ဆိုး၏ ဘေးရန်မှကင်းဝေးရန် အရှင်မြတ်ထံတော်၌ ဤသို့ခိုလှုံခွင့်တောင်းပါ။

اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمِ وَمِنْ شَرِّ هٰذِهِ الرُّؤْيَا

(အအူးဇို–ဗစ်လ္လာဟော့မေနတ်ရှိုင်တွာနစ်ရ်ရာဂျိမ်၊ ဝမင်န်ရှရေဟာဇိဟိရ်–ရွတ်အ်ယာ)
ထိုသို့ပြုလိုက်လျှင် အိပ်မက်ဆိုး၏ ဘေးရန်မှ ကာကွယ်မှုရရှိလေသည်။

<u>လေ့ကျင့်ခန်း (၂)</u>

(၁) နှာချေသောအခါ၊ သမ်းဝေသောအခါများတွင် အဘယ်ကြောင့်လက် (သို့) လက်ကိုင်
ပုဝါကို အုပ်ရသနည်း။
(၂) မိစ္ဆာကောင်သည် မည်သည့်အချိန် ရယ်မောသနည်း။
(၃) မိမိနှစ်ခြိုက်သောအိမ်မက်မြင် မက်သောအခါ မည်သူ့ကို ပြောရမည်နည်း။
(၄) အိပ်မက်ဆိုးမြင်မက်သောအခါ မည်သို့ပြုလုပ်ရမည်နည်း။
(၅) " ယရ်ဟမိုကလ္လာဟ် "၏ အဓိပ္ပါယ်ကိုရေးသားပါ။

❀❀❀

## သင်ခန်းစာ (၃)

## <u>ဧည့်သည်၏ တာဝန်အကြောင်း</u>

အကြင်သူတစ်ဦးတစ်ယောက်သည် မိမိထံသို့ အလည်အပတ်ရောက်ရန်အကြောင်း
ကြားလာလျှင် မိမိအနေဖြင့် လက်ခံရပေမည်၊ သို့မဟုတ် မမျှော်လင့်ဘဲ မိတ်ဆွေ၊ ဆရာသမား၊
မိဘ၊ ညီအစ်ကို၊ မောင်နှမ၊ ဆွေမျိုး စသည်တို့ရောက်လာလျှင်

اَهْلاً وَّسَهْلاً وَّمَرْحَبًا (အဟ်လောင်၊ ဝစဟ်လောင်၊ ဝမရ်ဟဘာ)

ဟုဆိုကာ ခရီးဦးကြိုဆိုရပေမည်။ ရောက်လာသောဧည့်သည်အား စိတ်ကျေနပ်လောက်အောင်
ပြုစုရပေမည်။ မိမိအိမ်တွင် ဧည့်သည်နေထိုင်ပြီး၊ ၄င်းဧည့်သည် မိမိနေရပ်သို့ ပြန်သွားသော
အခါ လိုက်လံပို့ဆောင်၍ နှုတ်ဆက်ရပေသည်။ ထိုသို့ တစ်ဦးနှင့်တစ်ဦးခွဲခွာကြသောအခါ
"ဖီးအမာနိလ္လာဟ်" فِيْ اَمَانِ اللّٰهِ "အရှင်မြတ်အားအပ်နှံပါ၏" ဟုဆိုရ
ပေသည်။ မိမိအနေဖြင့် တတ်စွမ်းလျှင် ဧည့်သည်အား လက်ဆောင်များပေးက ပို၍ ကောင်း၏။

# ကျေးဇူးတရားအကြောင်း

လူလူချင်း တစ်ဦးကိုတစ်ဦး ကူညီရပေမည်။ တစ်ဦး၏ ဒုက္ခကို တစ်ဦးကပြေလည်စေရန်ကူညီစောင်မကြရပေသည်။ သို့မှသာလျှင် လူကောင်းလူတော်၊ လူရည်မွန်ဟု ခေါ်ဝေါ်ကြပေမည်။ တမန်တော်မြတ်(စွ) အမိန့်ရှိသည်မှာ မွတ်စ်လင်မ်အချင်းချင်း ညီအစ်ကိုမောင်နှမများဖြစ်ကြ၏။ ထို့ကြောင့်မွတ်စ်လင်မ်အချင်းချင်း ကူညီစောင်မကြရပေမည်။ တစ်ဦးကိုတစ်ဦး မနာလို ဝန်တိုစိတ်လည်း မထားရပေ။ တစ်ဦးတစ်ယောက်ထံမှ အကူအညီရသောအခါ ကျေးဇူးတင်သောအားဖြင့် جَزَاكَ اللّٰهُ خَيْرًا (ဂျဇာကလ္လာဟုခိုင်ရန်) ဟုဆိုရ၏။ မိမိအနေဖြင့် အလုပ်တစ်ခုခုဆောင်ရွက်ရန် ဆန္ဒထားသောအခါ

اِنْ شَاءَ اللّٰهُ (အင်ရှာအလ္လာဟု) ဆိုရပေသည်။

မိမိသော်လည်းကောင်း၊ တစ်ဦးတစ်ယောက်သော်လည်းကောင်း ဝမ်းသာဖွယ်ရာကိစ္စတစ်ခုကြားသိမြင်တွေ့ရသောအခါ اَلْحَمْدُ لِلّٰهِ "အလ်ဟမ်ဒိုလိလ္လာဟေ" ဟုဆိုရ၏။ တစ်ဦးတစ်ယောက်၏ ချီးမွမ်းဖွယ်ရာကိစ္စတစ်ခုကြားသိရသောအခါ

مَا شَاءَ اللّٰهُ (မာရှာ အလ္လာဟု) ဟုဆိုရ၏။

မိမိသော်လည်းကောင်း၊ တစ်ဦးတစ်ယောက်သော်လည်းကောင်း ဝမ်းနည်းဖွယ်ရာကိစ္စနှင့်ကြုံကြိုက်နေပါက اِنَّا لِلّٰهِ وَاِنَّا اِلَيْهِ رَاجِعُوْنَ (အင်းနာ၊ လိလ္လာဟိဝအင်းနာ၊ အိလိုက်ဟိ၊ရားဂျိုးအူးန်) ဟုဆိုရပေသည်။

## လေ့ကျင့်ခန်း (၃)

(၁) ဧည့်သည်သင်တို့ထံလာလျှင် မည်သို့ကြိုဆိုမှုပြုရမည်နည်း။

(၂) ဧည့်သည်အား မည်သို့ပြုစုရမည်နည်း။

(၃) ဧည့်သည်ပြန်သောအခါ အနည်းဆုံး မည်သည့်နေရာထိ ပို့ဆောင်၍ မည်သို့ ဒိုအာပေးရမည်နည်း။

(၄) မွတ်စ်လင်မ်အချင်းချင်း မည်သို့တော်စပ်၍ မည်သည့်တာဝန်ရှိပါသနည်း။

(၅) တစ်ဦးတစ်ယောက်အား ကျေးဇူးတင်သောအားဖြင့် မည်သို့ဒိုအာပေးရမည်နည်း။

# သင်ခန်းစာ (၄)

## မိဘနှစ်ပါးအားပြုစုခြင်းအကြောင်း

မိဘအား ချစ်ခင်မြတ်နိုးစွာ ကြည့်ရှုခြင်းဖြင့် ကြီးမားသောအကျိုးစဝါးဗ်ကို ရရှိပေသည်။ မိဘအားပြုစုခြင်းသည် "ဂျိဟားဒ်" ထက်ပင်ပို၍ထူးမြတ်လှ၏။ ဂျန္နသ်သုခဘုံသည် မိဘနှစ်ပါး၏ ခြေဖဝါးအောက်၌ရှိကြောင်းကိုစွဲမြဲစွာမှတ်ယူပါ။ အလ္လာဟ်အရှင်မြတ်၏ နှစ်သက်ကျေနပ်မှုသည် မိဘ၏ ကျေနပ်မှုပေါ် တွင်မူတည်၍၊ အရှင်မြတ်၏ မကျေနပ်မှုသည် မိဘ၏မကျေနပ်မှုပေါ်၌ မူတည်လျှက်ရှိပေသည်။

မိဘနှစ်ပါးနှင့် ကြုံတွေ့ရသည်ဖြစ်ပါလျက် ၎င်းတို့အားပြုစု၍ ဂျန္နသ်သုခဘုံကို ရယူနိုင်ခြင်းမရှိခဲ့သောသူထက် အဘယ်သူကံဆိုးသူဖြစ်နိုင်ပါသနည်းဟု တမန်တော်မြတ်(စွ) မိန့်ကြားတော်မူခဲ့သည်။

အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်၏ အခွင့်အရေးမှာ အကြီးဆုံးဖြစ်ပေသည်။ သို့ဖြစ်ပေရာ မိဘနှင့် ရိုင်းစိုင်းစွာ ဆက်ဆံခြင်း မပြုလေနှင့်၊ မငေါက်ငမ်းလေနှင့်၊ ကြမ်းကြုတ်သောစကားကို မပြောဆိုလေနှင့်၊ မိဘနှစ်ပါးအား သာယာချိုအေးသော စကားကိုသာလျှင် ပြောဆိုပါ။ ဤသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ပင်ဖြစ်သည်။

ဟဒီးစ်တော်တစ်ပါးတွင် နဗီတမန်တော်မြတ် (စွ) က အလ္လာဟ်အရှင်မြတ်၏ ကျေနပ်မှုနှင့် ပတ်သက်၍ ဤသို့မိန့်ကြားတော်မူခဲ့၏။ မိဘနှစ်ပါးနှင့်ကောင်းမွန်စွာ ပြုစုဆက်ဆံခြင်းသည် နဖစ်လ်နမားဇ်၊ စွဒကါဟ် အလ္လုဒါန၊ ရိုဇာဟ်ဥပုသ်၊ ဟဂျ်၊ အွမ်ရဟ်နှင့် ဂျိဟားဒ် (အလ္လာဟ်လမ်းတော်၌ စစ်တိုက်ခြင်း)၊ အချုပ်အားဖြင့် အရာခပ်သိမ်းတို့ထက် ထူးမြတ်၏။ (ဗိုင်ဟကီကျမ်း)

အချုပ်အားဖြင့်ဆိုသော် မိဘနှစ်ပါးတို့၏ အမိန့်နာခံခြင်းနှင့် ၎င်းတို့ကိုပြုစုခြင်း၊ ကျေနပ်နှစ်သိမ့်ခြင်းဖြင့် ဂျန္နသ်သုခဘုံကို ရရှိနိုင်၏။ ၎င်းတို့ကို ပုန်ကန်စော်ကားခြင်း၊ ဒုက္ခပေးခြင်း၊ မကျေနပ်အောင်ပြုလုပ်ခြင်းကြောင့် ဂျဟန္နမ်ငရဲဘုံသို့လားရ၏။ သို့ရာတွင် ၎င်းတို့က အပြစ်တစ်စုံတစ်ရာ ကျူးလွန်ရန် အမိန့်ပေးခဲ့သော် လိုက်နာခြင်း မပြုရဟုတမန်တော်မြတ်(စွ) က မိန့်ကြားတော်မူခဲ့လေသည်။

### လေ့ကျင့်ခန်း (၄)

(၁) မိဘနှစ်ပါးအားပြုစုခြင်းအားဖြင့် မည်သို့အကျိုးစဝါးဗ် ရရှိမည်နည်း။

(၂) ကံဆိုးသူသည် မည်သူနည်း။

(၃) မိဘနှစ်ပါးကို မည်သို့ဆက်ဆံရမည်နည်း။

(၄) မိဘနှစ်ပါးအားပြုစုဆက်ဆံခြင်းသည်အဘယ်ကြောင့်အရာခပ်သိမ်းထက်မြတ်သနည်း။
(၅) မည်သည့်အချိန်မျိုး၌ မိဘအမိန့်ကို မနာခံရမည်နည်း။
(၆) မိဘနှစ်ပါးအမိန့်ကို မနာခံလျှင် မည်သည့်အပြစ်ရရှိမည်နည်း။

## သင်ခန်းစာ (၅)

## သန့်ရှင်းစင်ကြယ်ခြင်းနှင့် နည်းအဖြာဖြာ

သန့်ရှင်းစင်ကြယ်မှုသည် မွတ်စ်လင်မ်များ၏ ထူးခြားလှသော ယဉ်ကျေးမှုတစ်ရပ်ဖြစ်ပေသည်။ ဘာသာရေးအရလည်း အလွန်အရေးပါသည်။ **"သန့်ရှင်းစင်ကြယ်မှုသည် အီမာန်၏ ထက်ဝက်ဖြစ်သည်"** ဟူ၍ ဟဒီးစ်တော်၌ လာရှိပေသည်။ ကျမ်းမြတ်ကုရ်အာန် အာယတ်တော်တစ်ပါး၌လည်း **"ခန္ဓာကိုယ်သစ်ညမ်းနေလျှင်ရေချိုး၍စင်ကြယ်အောင်ပြုလုပ်ပါ"** ဟူ၍ပါရှိလေသည်။

ရေမရလျှင် (သို့မဟုတ်) မကျန်းမာ၍ ရေမကိုင်နိုင်လျှင် သန့်ရှင်းသောမြေကြီးနှင့် စင်ကြယ်အောင်ပြုလုပ်ရမည်ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် သန့်ရှင်း စင်ကြယ်သောသူကို နှစ်သက်တော်မူ၏။

တမန်တော်မြတ်(စွ) မိန့်ကြားတော်မူခဲ့၏။ ကျင်ကြီးကျင်ငယ်စွန့်သောအခါဝယ် ဇွါရ (အရှက်အင်္ဂါ) ကို လက်ျာလက်နှင့်မကိုင်ရ။ လက်ျာလက်နှင့် ဆေးကြောခြင်းလည်း မပြုရ။ (မွတ်စ်လင်မ်ကျမ်း)

အစ်သင်ဂျာ သုတ်သင်ခြင်းကို ကျောက်ခဲ (သို့မဟုတ်) မြေခဲ သုံးခဲဖြင့် ပြုလုပ်ကုန်။ ထို့နောက်မှသာ ရေဖြင့် ဆေးကြောပါကုန်။ (မွတ်စလင်မ်ကျမ်း)

ကျင်ကြီးကျင်ငယ်စွန့်သောအခါ "ကစ်ဗ်လာဟ်" ဖက်သို့မျက်နှာမူခြင်း၊ ကျောခိုင်းခြင်း မပြုလုပ်ရပါ။ (ဗိုခါရီကျမ်း)

ကျင်ငယ်စွန့်လိုသည်ရှိသော် သင့်လျော်သောနေရာကို ရှာဖွေပါ (အဗူဒါဝူးဒ်ကျမ်း) ပမာအားဖြင့် အကွယ်အကာကို သတိပြုကြကုန်။ လေသင့်ရာဖက်သို့ထိုင်ခြင်းမှရှောင်ရှားပါ။

မစီးတွေသောရေ (ရေသေ) ၌ ကျင့်ငယ်မစွန့်ရ (ဗိုခါရီကျမ်း)။ ရေချိုးခန်း၌ ကျင်ငယ် မစွန့်ရ။ အဘယ်ကြောင့်ဆိုသော် ၄င်းဖြင့်စိတ်တွင် မသတိမှုများ ပေါ်ပေါက်တတ်လေ၏။ (သစ်ရ်မေဇီကျမ်း)။ ကျင်ကြီးကျင်ငယ်စွန့်သောအခါ စကားမပြောဆိုရ (မက်စ်နဒ် အဟ်မဒ်ကျမ်း)။ တောင်ကြားလမ်းများ၌လည်းကောင်း၊ လူသွားရာလမ်းများတွင် လည်းကောင်း၊ လူများတည်းခို သော ရိပ်သာများတွင်လည်းကောင်း၊ ကျင်ကြီးကျင်ငယ်မစွန့်ရ (ဗိုခါရီကျမ်း)။

"ဗစ္စမိလ္လာ" ဆို၍ အိမ်သာသို့ဝင်ပါ။ အဘယ့်ကြောင့်ဆိုသော် ယင်းဗစ္စမိလ္လာသည် လူတို့၏ အရှက်အင်္ဂါကိုရှိုင်တာန်၏ မျက်စေ့အာရုံမှကွယ်ပျောက်စေသည် (သစ်ရ်မေဇီကျမ်း)။ မြင်းချေးချောက်၊ နွားချေးခြောက်များ အရိုးများဖြင့် အညစ်အကြေး မသုတ်သင့်ရ (သစ်ရ်မေဇီကျမ်း)။

**လေ့ကျင့်ခန်း (၅)**

(၁) သန့်ရှင်းစင်ကြယ်မှုသည် အီမာန်၏ မည်သည့်အစိတ်အပိုင်းဖြစ်ပါသနည်း။
(၂) သန့်ရှင်းစင်ကြယ်ရန် ရေမရလျှင် မည်သို့ ပြုလုပ်ရမည်နည်း။
(၃) သန့်ရှင်းစင်ကြယ်မှုတွင် မည်သည့်အရာများကို ရှောင်ကြဉ်ရမည်နည်း။
(၄) အိမ်သာထဲဝင်သောအခါ အဘယ်ကြောင့် ဗစ်မိလ္လာ ဆိုရပါသနည်း။
(၅) ရေချိုးခန်းတွင် အဘယ်ကြောင့် ကျင်ငယ် မစွန့်ခိုင်းပါသနည်း။



# သင်ခန်းစာ (၆)

# အဖေစကားလိုက်နာသည့်သား အကြောင်း

ရှေးရှေးတုန်းက သူဌေးကြီးတစ်ဦးမှာ သားသုံးယောက်ရှိခဲ့၏။ သူဌေးကြီးကွယ်လွန်ခါနီးအချိန်မှာ မိမိသားများကို ခေါ်ယူပြီး ဤသို့ဆုံးမခဲ့လေသည်။

၁။ အို.. သားတို့ ပညာဆည်းပူးကြပါ။

၂။ လုံ့လဝီရိယနှင့် သည်းခံခြင်းတရားကို လက်မလွှတ်ကြလေနှင့်။

၃။ ကျန်းမာရေးကို ဂရုစိုက်ပါ။

၄။ ငါ့ဂုဏ်နှင့်သားတို့ဂုဏ်ကို မထိခိုက်စေကြပါနှင့်။

၅။ သားတို့အပေါ်သို့ ဘေးဒုက္ခရောက်ချိန်တွင် ငါ၏ဆုံးမစကားကို မမေ့ကြကုန်နှင့်။

ထိုသူဌေးကြီးကွယ်လွန်သည့်အခါ သားအကြီးနှစ်ယောက်သည် ညီငယ်ကို အပြစ်ရှာ၍ အိမ်မှနှင်ထုတ်ပြီး ပစ္စည်းများကို သူတို့နှစ်ဦးသာခွဲ ဝေယူခဲ့လေ၏။ ညီငယ်သည် ဖခင်၏ ဆုံးမစကားကို အမြဲမှတ်သားထားခဲ့၏။ ထို့ကြောင့်ပညာရှိကြီးများထံခစားပြီး ပညာကိုအောင်မြင်စွာ ဆည်းပူးရရှိခဲ့သည့်အတွက် ဂုဏ်သိက္ခာရှိရှိ နေထိုင်နိုင်ခဲ့လေသည်။

ဖခင်၏ ပစ္စည်းများကို မတရားသိမ်းယူခဲ့ကြသော အစ်ကိုနှစ်ဦးသည် မာန်မာနနဲ့နေခဲ့ကြပြီးပညာဆည်းပူးခြင်းလုံးဝမပြုခဲ့သည့်အပြင် ပစ္စည်းများကိုလည်း သုံးစွဲဖြုန်းတီးနေခဲ့ကြ လေ၏။ ၎င်းတို့ပစ္စည်းဥစ္စာများကုန်ခမ်းသည့်အခါ ပစ္စည်းမဲ့ဖြစ်ပြီး အတိဒုက္ခရောက်ခဲ့ကြလေသည်။

ညီငယ်သည် အစ်ကိုများ၏အဖြစ်ဆိုးကိုမြင်ရပြီး လွန်စွာသနားစိတ်ပေါ်လာ၏။ ဖခင်၏ ဆုံးမစကားကို မမေ့ပဲ အစ်ကိုများထံသွားပြီးနှုတ်ဆက်၏။ အစ်ကိုများက သူ့ကိုမတရား လုပ်ခဲ့ပေမဲ့ သူက အစ်ကိုများကို ကောင်းကောင်းမွန်မွန်ဆက်ဆံ နေထိုင်ခဲ့လေသည်။

| မှတ်သားဖွယ် | "မိဘလင်္ကာ" |
|---|---|
| * မိဘစကားကို လိုက်နာတဲ့သားသည် အမြဲကောင်းစားသူပဲဖြစ်ရ၏။<br>* မိဘစကား မလိုက်နာတဲ့သားသည် ဒုက္ခရောက်တတ်တာကိုသတိထားကြရ၏။ | မိဘစကားမြဲမှတ်သား၊ သားသမီးဝတ္တရား။<br>မိဘငြိုငြင်မကောင်းမှုပင်၊ ဝေးဝေးရှောင်စေချင်။<br>မိဘခြေဖဝါး ဂျန္နသ်ထား၊ ကျမ်းမှာအထင်ရှား။ |

လေ့ကျင့်ခန်း (၆)

(၁) သား (၃) ယောက်အား ဖခင်က မည်သို့ဆုံးမ ဩဝါဒများပေးသနည်း။

(၂) ညီငယ်သည် အဘယ်ကြောင့်အောင်မြင်မှုကိုရ၍ အစ်ကို (၂) ဦးသည် အဘယ်ကြောင့် ဆုံးရှုံးမှု ဖြစ်သွားရပါသနည်း။

(၃) ဤပုံပြင်မှ ကောက်နုတ်ချက်ကိုရေးသားပါ။

(၄) မိဘလင်္ကာ၏ စကားပြေကိုရေးသားပါ။



# သင်ခန်းစာ (၇)

# စားခြင်းသောက်ခြင်း၏ ရှိသေသမှု

၁။ မစားမီအလျင်နှင့် စားသောက်ပြီး လက်ဆေးရမည်။ နှုတ်လည်း ကျင်းရမည်။

၂။ "ဗစ္စမိလ္လာဟိ ဝအလာ–ဗရ်ကသိလ္လာဟ်" ဟုဆို၍ ထမင်းစားရမည်။ (အဓိပ္ပါယ်– ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်၏ နာမတော်နှင့်လည်းကောင်း၊ ထိုအရှင် မြတ်၏ ဘရ်ကသ်တော်နှင့်လည်းကောင်း အစပြု၍ စားသုံးပါ၏။)

၃။ "ဒတ်စ်တရ်ခါန်" အခင်း ခင်း၍ စားရမည်။

၄။ လက်ျာလက်ဖြင့် မိမိရှေ့တွင်ရှိသော ပန်းကန်မှယူ၍ စားရမည်။

၅။ ပန်းကန်၏အလည်တည့်တည့်၌ လက်မနှိုက်ရ။ အဘယ်ကြောင့်ဆိုသော ပန်းကန် အလယ်၌ ဗရ်ကသ်တော်များ ကျရောက်ပေသည်။

၆။ အလွန်ပူပြင်းသော ထမင်း၊ ဟင်းကို မစားလေနှင့်။

၇။ လက်၌လူးပေနေသည်ကို ဆေးမပြစ်ရ။ ပထမ လက်ချောင်းများကိုယက်ရမည်။

ပြီးနောက်မှ ဆေးကြောရမည်။ မည်သည့်နေရာတွင် ဘရ်ကသ်ရှိသည်ကို သင်တို့ မသိကြပဟု ဟာဒီးစ်တော်၌ လာရှိပေသည်။

၈။ ပန်းကန်ကို သန့်ရှင်းအောင်ဆေးကြောရမည်။ ရှိုင်တာန်အတွက် မထားခဲ့ရ။ သင့်အား ဂျဟန္နမ်မှ ကင်းလွတ်စေရန် ပန်းကန်က ဒိုအာပြုလေသည်။

၉။ စားသောက်ဖွယ်ရာများကို အပြစ်မဆိုရ။ စိတ်အလိုရှိကစားပြီး စိတ်အလိုမရှိက မစားဘဲနေရမည်။

၁၀။ မုန့်စားသော အခါ လက်ချောင်း သုံးချောင်းဖြင့်သာ စားရမည်။

၁၁။ အားလုံးရောနှော၍စားရမည်။ တသီးတခြားစီ မစားရ။

၁၂။ ထမင်းစားပြီးသောအခါ "အလ်ဟာမ်ဒိုလိလ္လာဟစ်လဇီအတ်တွအာမာနာ ၀စာကားနာ စဂျာအာလနာမိနတ်လ်မွတ်စလေမီးန်" ဟု ဆိုရမည်။ (အဓိပ္ပါယ်–ချီးမွမ်းထောပနာပြုခြင်းအပေါင်းတို့သည် အလ္လာဟ်အရှင်အတွက်သာလျှင်တည်း။ ထိုအရှင်သာလျှင် ကျွန်ုပ်တို့အား အစာရေစာတိုက်ကျွေးတော်မူပြီး ကျွန်ုပ်တို့အား မွတ်စ်လင်မ်အဖြစ် ပြုပေးတော်မူပေသည်။)

၁၃။ ရေ (သို့မဟုတ်) နို့သောက်လျှင် ဦးစွာ "ဗစ္စမိလ္လာဟ်" ဆိုရမည်။

၁၄။ အကယ်၍ ပန်းကန်ခွက်သည် ကွဲအက်နေသော် ထိုကွဲအက်သော နေရာမှ မသောက်လေနှင့်။

၁၅။ ကုလားအုတ်ကဲ့သို့ အသက်တစ်ရှူတည်း မသောက်လေနှင့်။ ခွက်ကို ပါးစပ်တပ်လျက် အသက်မရှူရ။ ခွက်ထဲကိုလည်း မမှုတ်လေနှင့်။

## လေ့ကျင့်ခန်း (၇)

(၁) ဗစ်မိလ္လာကို အရဗီလိုရေးသား၍ အဓိပ္ပါယ်ပြန်ပါ။

(၂) ပန်းကန်အလယ်မှ အဘယ်ကြောင့် နိုက်မစားရသနည်း။

(၃) ထမင်းစားပြီး လက်မဆေးမီ အဘယ်ကြောင့် ယက်ခိုင်းရသနည်း။

(၄) မိမိပန်းကန်ကိုစားပြီး ဆေးကြောလျှင် မည်သို့အကျိုးရရှိသနည်း။

(၅) မုန့်ကို မည်ကဲ့သို့စားရမည်နည်း။

(၆) အသက်တစ်ရှူထဲ ရေသောက်ခြင်းသည် အဘယ်နည်း။

# သင်ခန်းစာ (၈)

## စာရိတ္တကောင်းနှင့် ဂုဏ်ရည်မွန်

အစ္စလာမ်သာသနာတော်၌ ကောင်းမြတ်သော အကျင့်စာရိတ္တ၏ အရေးကြီးပုံနှင့် ထူးမြတ်ပုံများကို ကောင်းစွာ ဖော်ပြထား၏။ ရစူလ်ကိုယ်တော်မြတ်၏ အချို့သောဟဒီးစ်တော်တစ်ပါးတွင် "အသင်တို့အနက် အကျင့် စာရိတ္တ အကောင်းဆုံးသောသူသည်သာလျှင် အမွန်မြတ်ဆုံးသောသူဖြစ်သည်" ဟု ရစူလ်ကိုယ်တော်မြတ် (စွ) မိန့်ကြားခဲ့သည်။

အခြားဟဒီးစ်တော်တစ်ပါးတွင် "ကေယာမတ်သ်"နေ့၌ ချိန်ခွင်ထဲတွင် အချိန်အစီးဆုံးဖြစ်မည့်အရာမှာ ကောင်းမြတ်သော အကျင့်စာရိတ္တပင်ဖြစ်ချေအံ့ဟု ကိုယ်တော်မြတ် (စွ) မိန့်ကြားလေသည်။

နဗီတမန်တော်မြတ်က ကောင်းမြတ်သော အကျင့်စာရိတ္တများ၏ ထူးမြတ်မှုအကြောင်းများကို ဖော်ပြဟောကြားတော်မူသကဲ့သို့ အကျင့်ဆိုးများ၏ ဆိုးယုတ်မှုများ အကြောင်းကိုလည်း ဟောကြားတော်မူခဲ့လေသည်။

အလ္လာဟ်အရှင်မြတ်ထံတွင် ယုတ်ညံ့သော စာရိတ္တထက် ဆိုးဝါးသောပြစ်မှုကား မရှိတော့ချေဟု ကိုယ်တော်မြတ် (စွ) မိန့်တော်မူခဲ့လေသည်။

## ချိုသာသောစကားကိုပြောဆိုခြင်း

အစ္စလာမ်သာသနာတော်၏ အဆုံးအမများတွင် စကားပြောဆိုသောအခါ ဂုဏ်သိက္ခာရှိစွာနှင့် ချိုသာစွာပြောဆိုခြင်း၊ ခက်ထန်ကြမ်းတမ်းစွာပြောဆိုမှုတို့မှ ကြဉ်ရှောင်ခြင်းများသည်လည်း ပါဝင်လေသည်။ ကုရ်အာန်ကျမ်းမြတ်၌ ဤသို့လာရှိ၏။ "၄င်းပြင် အသင်တို့သည် လူတို့အား ကောင်းမွန်သောစကားကိုသာပြောဆိုကြလေကုန်" ( ၂း ၈၃ )

ကောင်းမွန်ချိုသာစွာပြောဆိုခြင်းမှာ ကောင်းမှုကုသိုလ်ပင်ဖြစ်သည်။ ခက်ထန်ကြမ်းတမ်းစွာပြောဆိုခြင်းမှာ အပြစ်ငရဲရရှိသည်ဟု အစ္စလာမ်သာနတော်က သတ်မှတ်ထား၏။ ဟဒီးစ်တော်တစ်ပါးတွင် နှုတ်ကြမ်းတမ်းခြင်းသည် စော်ကားမှုပင်ဖြစ်၏။

အမျိုးသမီးများသည် တတ်နိုင်သမျှသူစိမ်းယောကျ်ားများနှင့် အကြောင်းမရှိဘဲ စကားပြောခြင်းကို အထူးရှောင်သင့်၏။ ပြောဆိုရန်လိုအပ်သောအချိန်၌ လိုအပ်သမျှသော စကားကိုသာ ပြောရ၏။ ပြောဆိုရာ၌လည်း အသံမှန်မှန်ဖြင့် ပြောဆိုရ၏။ ကုရ်အာန် ကျမ်းမြတ်တွင် "အကယ်၍ သင်မတို့သည် ကောင်းမြတ်သော အကျင့်ကို ဆည်းပူးကြပါလျှင် (သူစိမ်းယောကျ်ားများနှင့်) စကားပြောသောအခါ (လိုအပ်သမျှကိုပြော၍) ပျော့နဲ့စွာ

မပြောလေနှင့်၊ယင်းသို့ ပြုလျှင် စိတ်ထဲ၌ မကောင်းသဘောရှိသူသည် တပ်မက်လာတတ်၏။ ထို့မှ တစ်ပါး တည်ကြည်စွာ စကားပြောကြလေကုန်” ဟူ၏။(၃၃:၃၂)

အမျိုးသားများသည် ပြတ်သားပွင့်လင်းစွာ ပြောရမည်။အကျိုးမရှိသော စကား မပြောဆိုရ။ကုရ်အာန်ကျမ်းမြတ်တွင် “အသင်တို့သည် ဂျန္နသ်သုခဘုံ၌ အကျိုးမရှိသော (အချိုးအနှိုး) စကားကိုကြားရမည်မဟုတ်။မွတ်စလင်မ်တစ်ဦးသည် အကျိုးမရှိသော စကားကို ရှောင်နိုင်သမျှ ရှောင်ရမည်။” ဟု အစ္စလာမ်သာသနာတော်က ညွှန်ကြားထားပေသည်။ သို့ဖြစ်ရာ စကားပြောဆိုရာတွင် ကောင်းမွန်ချိုသာစွာ ပြောဆိုသင့်သည်။သို့မဟုတ်ပါက စကား မပြောဘဲ ဆိတ်ဆိတ်နေသင့်ပေသည်။

လေ့ကျင့်ခန်း (၈)

(၁) အမွန်မြတ်ဆုံးသောသူသည် မည်သူနည်း။

(၂) အရှင်မြတ်ထံတော်၌ ယုတ်ညံ့သော အပြစ်ကား အဘယ်နည်း။

(၃) ကောင်းမွန်သောစကားပြောခြင်းသည် အဘယ်နည်း။

(၄) ခက်ထန်ကြမ်းတမ်းသော စကားပြောခြင်းသည် အဘယ်နည်း။

(၅) အမျိုးသမီးများသည် မည်သူတို့နှင့် စကားပြောခြင်းကို ရှောင်ကြဉ်ရမည်နည်း။ အဘယ်ကြောင့်နည်း။

(၆) အမျိုးသားများသည် စကားမည်ကဲ့သို့ ပြောရမည်နည်း။

❀❀❀

## သင်ခန်းစာ (၉)

## မေတ္တာပို့နည်းများ

(၁) အလ္လာဟ်အရှင်မြတ်၏ နာမတော်တွင် “ ဂျလ္လဂျလားလုဟူ၊ ဝအမ်မ၊ နဝါးလွှဟ်” ဖတ်ပါ။

(၂) ကျွန်ုပ်တို့၏ တမန်တော်မြတ် နာမတော်တွင် “ဆွလလ္လာဟုအလိုင်ဟိဝစ္စလ္လာမ်” ရွတ်ပါ။

(၃) အခြားတမန်တော်၏ နာမတော်တွင် “အလိုင်ဟိစ္စလာမ်” ဟုရွတ်ပါ။

(၄) စွဟာဗီအပေါင်းနာမတော်များတွင် “ရသွေယလ္လား ဟုအန်ဟွန်မ်” ဆိုပါ။

(၅) ယောကျ်ားစွဟာဗီတစ်ဦးအမည်ဖတ်လျှင် “ရသွေယလ္လာဟုအန်” ဟုဆိုပါ။

(၆) အမျိုးသမီးစွဟာဗီ အမည်ရွတ်လျှင် “ရသွေယလ္လား ဟု အန်ဟာ” ဟုဆိုပါ။

(၇) စွဟာဗီနှစ်ပါးအမည်ရွတ်လျှင် “ရသွေယလ္လားဟု အန်ဟုမား” ဆိုပါ။

(၈) သူတော်စင်အပေါင်း၏အမည်ကို ဖတ်လျှင် "ရဟောမာဟုမ္ဗလ္လာဟ်" ရွတ်ဆိုပါ။
(၉) သူတော်စင်ယောက်ျား၏အမည်ကို ဖတ်လျှင် "ရဟ်မသ္ဗလ္လာဟ်ဟိုအလိုင်ဟိ" ဆိုပါ။
(၁၀) သူတော်စင်အမျိုးသမီး၏ အမည်ကိုဖတ်လျှင် "ရဟ်မသ္ဗလ္လာဟိ အလိုက်ဟာ" ဆိုပါ
(၁၁) သူတော်စင်နှစ်ပါး အမည်ကိုရွတ်လျှင် "ရဟ်မသ္ဗလ္လာဟိအလိုင်ဟိုမာ" ဖတ်ပါ။
(၁၂) "ဖရိယ့်သဟ်" အမည်ရွတ်လျှင် "အလိုင်ဟိစ္စလာမ်" ဆိုပါ။ နှစ်ပါး ဆိုပါက "အလိုင်ဟိမစ္စလာမ်" ရွတ်ပါ။
(၁၃) သက်ရှိသူတော်စင်အမည်နှင့်တကွ "ဒါမသ်ဗရကားသုဟွန်မ်" ရွတ်ပါ။
(၁၄) သေဆုံးသောသူတော်စင်များအတွက် "နောင်ဝရွလ္လာဟုမရ်ကဒဟ်" ဟု ဖတ်ပါ။

## မစ္စဝါးက်တံပူတိုက်ခြင်း

ပလုပ်ကျင်းတိုင်းသွေးထွက်လျှင် ပလုပ်မကျင်းဘဲ ဝူဇူပြုပါ။ပလုပ်မကျင်းဘဲ ပြုထားသော ဝူဇူဖြင့် နမာဇ်ပိုင်၏။မစ္စဝါးက် (တံပူ) အစားသွားပွတ်တံသုံးရာ၌ ဤကဲ့သို့ ခွဲခြား သိထားရန် လိုအပ်၏။ယင်းသွားပွတ်တံကို ဝက်မွေးဖြင့် ပြုလုပ်ထားဟန်ရှိသော် အသုံးမပြု ခြင်းမှာ မြတ်၏။ (သံသယမရှိပါက) သုံးခွင့်ရှိ၏။တစ်ဖန် အကြောင်းမရှိဘဲ သွားပွတ်တံကို သာ မစ္စဝါးက်အစားသုံးခြင်းမှာ မစ္စဝါးက်ကိုယ်စားမဖြစ်နိုင်ပါ။

မစ္စဝါးက် (တံပူ) သည် တမာပင်ကဲ့သို့ ခါးသက်သည့် သစ်ကိုင်းများ (သို့မဟုတ်) အမြစ်များဖြင့် တိုက်သင့်၏။တစ်ထွာထက် ပိုမရှည်သင့်ပေ။ရေဆေးပြီးမှ တံပူတိုက်ပါ။ ပြီးလျှင် ထိုတံပူကို ရေဆေးပြီးထားပါ။လက်ျာဖက်သွားများကို ရှေးဦးစွာ တိုက်ပြီးမှ လက်ဝဲဖက် သွားများကို တိုက်သင့်၏။အကြိမ်တိုင်း ရေကိုသုံး၍ (သုံးကြိမ်) တိုက်သင့်ပေသည်။

စွန္နသေမူအာကာဒဟ်မှာ အကိုင်း၊ အမြစ်သာဖြစ်သော်လည်း ယင်းအကိုင်းမရှိသော အခါ လက်ချောင်းဖြင့် အဝတ်ထူထူပတ်၍ တိုက်နိုင်၏။ သို့သော် ဤသို့ အစဉ်အမြဲပြုခြင်း မှာ စွန္နသ်တော်ကို ဆန့်ကျင်ရာရောက်၏။ ဖြောင့်တန်းနေသော မစ္စဝါးက်ဖြစ်ရမည်။ အနည်း ဆုံး လက်လေးလုံးခန့်ရှိရမည်။မစ္စဝါးက်တိုက်သောအခါ တံပူကို ဤသို့ကိုင်ပါ။လက်ျာဖက် လက်ညှိုး လက်ခလယ်နှင့် လက်သူကြွယ်တို့မှာ မစ္စဝါးက်အောက်ဖက်၌ရှိရပြီး လက်မကိုမူ ပါးစပ်အနီး အောက်ဖက်မှ ဖိထားရမည်။သွားအတွင်းအပြင် စသည်တို့ကိုပါ တိုက်ရမည်။ ဝဲ–ယာတိုက်ရမည်။ မစ္စဝါးက်ကို ထောင်ထားရမည်။ အခြားသူများ မစ္စဝါးက်ကို မသုံးရ။ တံပူတိုက်၍ဖတ်သောနမာဇ်သည် တံပူမတိုက်ဘဲ ဖတ်သောနမာဇ်ထက် အဆပေါင်း (၇၀) ပိုမို၍ ကုသိုလ်ထူး၏။

## မစ္စဝါးက်ပြု၍ စွန့်သည်၊ မွစ္စသဟပ်ဖြစ်သောအချိန်

အိပ်ရာမှထချိန်၊ ဝူဇူပြုချိန်၊ သေလာဝသ်ပြုရန်၊ ဟဒီးစ်သင်ပေးရန် ဆည်းပူးရန်၊ ပါးစပ် အနံ့ဖြစ်ပေါ်ချိန်၊ ဝူဇူပြုထားသည်မှာ ကြာမြင့်ပြီဖြစ်၍ နမာဇ်မစမီ၊ ဖစ်ကိုရ်မပြုမီ၊ ကအ်ဗဟ်ဟ သွီးမ်ထဲမဝင်မီ၊ အိမ်ထဲမဝင်မီ၊ သံဝါသမပြုမီ၊ ကောင်းမွန်သောအသိုင်းအဝိုင်းသို့ မသွားမီ၊ သေအံ့ဆဲဆဲအချိန်၊ ခရီးမသွားမီ၊ ထမင်းမစားမီ၊ ဆာလောင်မွတ်သိပ်ချိန်၊ ခရီးမှအပြန်၊ အိပ်စက်ခြင်းမပြုမီ။

**လေ့ကျင့်ခန်း (၉)**

(၁) ဆွဟာဗာသာဝကအပေါင်းတို့အမည်ကြားလျှင် မည်သို့ဆိုရမည်နည်း။

(၂) မစ္စဝါးက် (တံပူ) သည် မည်သည့်အရာဖြစ်သနည်း။

(၃) မစ္စဝါးက်ဖြင့် သွားတိုက်ခြင်းကို တရားတော်က မည်သို့ ဆိုထားပါသနည်း။

(၄) မစ္စဝါးက် တိုက်ပြီး ဖတ်သော နမာဇ်နှင့် မတိုက်ဘဲဖတ်သော နမာဇ၏ ကွာခြားမှုကို ရေးပြပါ။

(၅) သာသနာ့စာပေများဖတ်ရန် မစ္စဝါးက်တိုက်ခြင်းမှာ အဘယ်နည်း။

## သင်ခန်းစာ (၁၀)

## အထွေထွေပညတ်တော်များအကြောင်း

၁။ အမျိုးသားများသည် အမျိုးသမီးများ၏ အလယ်ပုံကြားက မသွားရ။

၂။ ဦးခေါင်းဆံပင်ကို တစ်ရက်ခြားစီ ဖီးလိမ်းကုန်။ ကိုယ်တော်သည် နေ့စဉ်ဖီးလိမ်းခြင်းကို နှစ်ခြိုက်တော်မမူ။ (သစ်ရ်မေဇီကျမ်း)

၃။ တစ်ဦးတစ်ယောက်၏ ပစ္စည်းကို ကျီစား၍ယူမသွားရ။

၄။ နို့ပြတ်စကလေးငယ် စကားမပီမပြင် ပြောဆိုသောအခါ ဦးစွာ စင်ကြယ်သော ကလေမာ (လာအိလာဟ အစ်လ်လလ္လာဟု မိုဟမ္မဒ်ဒွရ်ရစူလွလ္လာဟ်) ကို သင်ပေးကြကုန်။ ထို့ပြင် နမာဇ်ဖတ်ရန်လည်း အမိန့်ပေးကုန်။

၅။ တံခါးများပိတ်သောအခါ အလ္လာဟ်အရှင်မြတ်၏ နာမတော်ကို ရွတ်ဆို၍ပိတ်ရန်။

၆။ ရေသားရေအိပ်များကို သားရေကွင်းကြိုးများဖြင့် ချည်နှောင်ထားကုန်။ ဆိုလိုသည်မှာ မိမိအိမ်တွင် သုံးစွဲသော ရေအိုးတိုင်ကီများကို ညမအိပ်ခင် အလျှင် အဖုံးဖုံးထားပါရန်။

၇။ အကယ်၍ တစ်ဦးတစ်ယောက်ထံ တွေ့ဆုံရန်သွားခဲ့သော် သူတစ်ပါး ငြီးငွေ့သွားလေအောင်နှင့်သူတစ်ပါးအလုပ်တွင်ထိခိုက်စေခြင်းငှာကြာမြင့်စွာစကားကြောရှည်မနေရ။

၈။ တစ်ဦးတစ်ယောက်က အလုပ်ကိစ္စ တစ်စုံတစ်ရာပြောဆိုခဲ့ပါမူ ထိုအခါ ယင်းကိစ္စကို ကြားနာပြီးမှ မှန်၏သော်လည်းကောင်း၊ မကြား၍သော်လည်းကောင်း စသည့်ကိစ္စများကို နှုတ်လျှာမှ ထွက်ဆိုတုန့်ပြန်ပါ။ သို့မဟုတ်ပါက ထင်ယောင်ထင်မှားဖြစ်သွားပေမည်။ အသင်လက်မခံဘဲ လက်ခံလိုက်ပြီ၊ ကြားသွားပြီဟု ယုံပုံလွဲမှတ်ထင်မိနေပေမည်။

၉။ လူနှစ်ဦးထိုင်နေသောနေရာတွင် တံတွေးထွေးခြင်းနှင့် နှာညှစ်ခြင်းများ မပြုရ။မပြုမဖြစ် အရေးပေါ်နေခဲ့သော် ဘေးတစ်ဖက်သို့ သွား၍ စွန့်ပစ်ရပေမည်။

၁၀။ စားသောက်သောအခါ ရွံစရာကောင်းသောအရာများ၏ အမည်များကို ဖော်ပြခြင်းမပြုရ။ထိုစကားများဖြင့် အချို့စိတ်နုနယ်သူများအား ဒုက္ခရောက်ပေမည်။

၁၁။ ဝေဒနာရှင်များနှင့် ၎င်း၏ အိမ်သူအိမ်သားများရှေ့တွင် နှစ်သိမ့်ဖွယ်ရာ စကားမှတစ်ပါး မျှော်လင့်ချက်ကင်းမဲ့သော စကားများကို အလျှင်းမပြောရ။

၁၂။ တစ်ဦးတစ်ယောက်နှင့် ပတ်သက်၍ တီးတိုးစကား တစ်စုံတစ်ရာကို (တရားတော်အရ ပြောပိုင်သည်လည်းရှိသော်) ပြောရန်လိုသော် ကြုံကြိုက်သဖြင့် ထိုနေရာတွင် ကာယကံရှင်လည်း ရောက်ရှိနေပါမူ ၎င်း၏ ရှေ့မှောက်မှာမျက်ခုံး၊ မျက်စဖြင့်သော်လည်းကောင်း၊ ခြေဟန်လက်ဟန်ဖြင့်သော်လည်းကောင်း မပြုလုပ်ရ။ ထိုသူအား ဒွိဟသံသယဖြစ်စေမည်။ အထက်ပါကိစ္စသည် တရားတော်နှင့် ဆန့်ကျင်ဘက်ဖြစ်နေလျှင် အပြစ်ထိုက်မည်မှာ ပြောစရာမရှိတော့ပေ။

လေ့ကျင့်ခန်း (၁၀)

(၁) စကားစတင်ပြောဆိုသောကလေးငယ်အား မည်သည့်အကြောင်းကို စတင်သင်ကြား ပေးရမည်နည်း။

(၂) အိမ်တံခါးများ ပိတ်သောအခါ မည်သို့ဆိုရမည်နည်း။

(၃) တစ်ဦးတစ်ယောက်၏ ကိစ္စကိုကြားနာသောအခါ အဘယ်ကြောင့် နှုတ်လျှာမှ ထုတ်ဖော်ပြောဆိုပါသနည်း။

(၄) စားသောက်သောအခါ အဘယ်ကြောင့်ရွံရှာစရာ အရာများ၏အမည်ကိုမဖော်ပြခိုင်းပါသနည်း။

# သင်ခန်းစာ (၁၁)

## မိထွေး၏ တာဝန်ဝတ္တရား

မိထွေးသည်လည်း ဖခင်၏လက်တွဲဖက်အဖော်ဖြစ်သည်။ ဖခင်၏အပေါင်း အဖော်များနှင့်ပတ်သက်၍ ကောင်းမွန်စွာဆက်ဆံရန် လာရှိထား၏။ ဤအတွက်ကြောင့် မိထွေးနှင့် ပတ်သက်ပြီး တာဝန်ဝတ္တရာ တစ်ချို့ရှိပေ၏။ မိခင်ဖခင်သေဆုံးပြီးနောက်ပိုင်း မိမိအပေါ် တာဝန်ဝတ္တရားများရှိ၍ မိထွေးသည်လည်း ထိုအတိုင်းပင်ဖြစ်၏။

## ညီအစ်ကို မောင်နှမများ၏ တာဝန်ဝတ္တရား

ဟဒီးစ်သြဝါဒတော်တွင် လာရှိသည်မှာ အစ်ကိုကြီးသည် ဖခင်ပမာဖြစ်၏။ ၎င်း ဖြင့် သိရှိရသည်မှာ ညီငယ်သည် သားသမီးကဲ့သို့ ဖြစ်၏။ သို့အတွက်ကြောင့် ၎င်းတို့နှစ်ဦး၏ တာဝန်ဝတ္တရားများသည် မိဘနှင့် သားသမီးကြားရှိ ဝတ္တရားများကဲ့သို့ ဖြစ်၏။ အစ်မနှင့် ညီမတို့ကြားရှိ ဝတ္တရားများသည်လည်း ဤပုံစံအတိုင်းပင်ဖြစ်၏။

## တပည့်နောက်လိုက်များ၏ တာဝန်ဝတ္တရားများ

တပည့်နောက်လိုက်များသည်လည်း သားသမီးများကဲ့သို့ဖြစ်၏။ချစ်ခင်ယုယမှု၌ ၎င်းတို့၏ တာဝန်ဝတ္တရားတွင် သားသမီးများပမာဖြစ်၏။

## ယောက္ခမ၊ ယောက္ခထီးအိမ်ရှိ အမျိုးအနွယ်များ၏ တာဝန်ဝတ္တရားများ

ကျမ်းမြတ်ကုရ်အာန်တွင် ၎င်းနှင့်ပတ်သက်၍လည်းလာရှိပေ၏။ထို့အတွက်ကြောင့် သိရှိရသည်မှာ ယောက္ခမ၊ ယောက္ခထီး၊ ယောက်ဖ၊ ခယ်မ၊ သားမက်၊ ချွေးမ၊ ဇနီးမယားနှင့် ခင်ပွန်း၏ သားသမီးများ အစရှိသည့် အဆက်အနွယ်များရှိ၏။ ဤအတွက်ကြောင့် ၎င်းတို့ နှင့် ပတ်သက်ပြီး စိတ်ထားဖြူစင်စွာဖြင့် ထားရှိရန် လိုအပ်ပေသည်။ မိမိတို့ အချင်းချင်း၌ လည်း ကောင်းမွန်စွာ ဆက်ဆံပြီး ကြည်ကြည်ဖြူဖြူရှိရမည်။

**လေ့ကျင့်ခန်း (၁၁)**

(၁) မိထွေး၏တာဝန်ရှိပါသလား။၎င်းမှာ မည်သို့နည်း။

(၂) သားမက်၊ ချွေးမများ၏ တာဝန်ဝတ္တရားများကိုဖော်ပြပါ။

(၃) ညီအစ်ကိုမောင်နှမများ၏ တာဝန်များကိုရေးပြပါ။

(၄) ဆရာသည် တပည့်များအပေါ် မည်သို့ သဘောထားရမည်နည်း။

# သင်ခန်းစာ (၁၂)

# လဲလျောင်းခြင်းနှင့် အိပ်စက်ခြင်း၏ စည်းကမ်းများ

တမန်တော်မိုဟမ္မဒ် (စွလလ္လာဟုအလိုင်ဟိဝစလ္လာမ်) သခင်သည် လဲလျောင်းခြင်းနှင့် အိပ်စက်ခြင်းနှင့် ပတ်သက်၍ ဤသို့ မိန့်ကြားခဲ့လေသည်။

၁။ လဲလျောင်းရာတွင် ပက်လက်လှန်၍ ဒူးထောင်ကာ ခြေပေါ်ခြေတင်၍မပြုရ။ (မွတ်စ်လင်မ်ကျမ်း)

၂။ မှောက်ခုံလဲလျောင်းခြင်းကို အလ္လာဟ်အရှင် မနှစ်မြို့ပေ။

၃။ အိပ်စက်သောအခါတွင် အမိုးအကာအရံနှင့် အကာအဆီးမရှိသော နေရာတွင် မအိပ်ရ။

၄။ အိပ်စက်မည့်အလျှင် အိပ်ရာခင်းကို ဦးစွာခါရ၏။ မိမိအိပ်မည့်နေရာကို သန့်ရှင်းအောင်ပြုရ၏။ ထိုသို့ပြုပြီးမှသာ အိပ်ရာဝင်ရ၏။

၅။ အလ္လာဟ်အရှင်ပြတ်ကို ကျေးဇူးတင်သောအားဖြင့် ဒိုအာဖတ်၍ အိပ်စက်ပါ။ စူရာအချို့ကိုပါဖတ်၍ ကိုယ့်ကိုယ်ကိုမန်းမှုတ်ပါ။

၆။ မိမိအိပ်စက်ရန်ပြုသောအခါ ထွန်းညှိထားသောမီးတိုင် (လျှပ်စစ်မီး) များကို ငြိမ်းလိုက်ရ၏။ထိုအရာများသည် အသင်တို့၏ ရန်သူဖြစ်၍ ငြိမ်းသတ်ပြီးမှ အိပ်စက်ခြင်းကိုပြုပါ။(မွတ်စလင်မ်ကျမ်း)

၇။ အိပ်ရာမှနိုးသောအခါ အရှင့်ကို ကျေးဇူးတင်သောအားဖြင့် ဒိုအာဖတ်၍ထပါ။

၈။ တမန်တော်မြတ် (စွ) က မိန့်ကြားခဲ့သည်။ အသင်တို့အိပ်စက်ခြင်းမှ ထသောအခါ မိမိတို့၏ လက်များကို အိုးခွက်ပန်းကန်အတွင်းသို့ လက်ကိုဦးစွာ သုံးကြိမ် သုံးခါ မဆေးကြောမီ အလျှင်မနှစ်လေနှင့်။ အဘယ်ကြောင့်ဆိုသော် ၎င်းသည် မည်သည့်နေရာတစ်ညတာ ရှိနေခဲ့သည်ကို မသိရှိရချေ။ (ဗိုခါရီကျမ်း)

၉။ ထို့အပြင် အသင်တို့သည် အိပ်ရာမှ နိုးကြား၍ မျက်နှာကို ရေသန့်စင်သောအခါ မိမိနှာခေါင်းကို သုံးကြိမ်ရေဆေးကြောပါ။ အကြောင်းမူ (ရှိုင်တာန်) မိစ္ဆာကောင်သည်ညတွင် လူတို့၏ နှာနုတွင်း၌ နေတတ်၏။ (ဗိုခါရီကျမ်း)

လေ့ကျင့်ခန်းမေးခွန်း (၁၂)

၁။ လဲလျောင်းသောအခါ မပြုအပ်သောအချက်ကို ရေးပါ။

၂။ မအိပ်ခင် အလျှင်ဦးစွာ မည်သို့ပြုပြီးမှ အိပ်ရမည်နည်း။

၃။ အိပ်ရာပေါ် ရောက်သောအခါ မည်သို့ပြုရမည်နည်း။

၄။ အိပ်ရာမှနိုးသောအခါ မည်သို့ပြုရမည်နည်း။

*-*-*

# သင်ခန်းစာ (၁၃)

# အမျိုးသမီးများနှင့် သက်ဆိုင်သော ပညတ်တော်များအကြောင်း

အစ္စလာမ်သာသနာဝင် မွတ်စ်လင်မ်အမျိုးသမီးတို့သည် ရှရီအတ်သ်တရားတော်နှင့်အညီ အောက်ပါအတိုင်း နေထိုင်ပြောဆို ကျင့်ကြံရပါသည်။

၁။ လမ်းသွားသည့်အခါ သူစိမ်းတရံစာအမျိုးသားများနှင့် တစ်လမ်းစီခြား၍လျှောက်ရမည်။

၂။ လမ်းအလယ်မှ မလျှောက်ရ။ဘေးတစ်ဖက်မှ သွားရမည်။

၃။ ငွေဖြင့်ပြုလုပ်ထားသော လက်ဝတ်လက်စားများ သုံးစွဲလျှင် မြတ်၏။

၄။ အကြင်အမျိုးသမီးသည် ကြွားဝါလို၍ ရွှေတန်ဆာများ ဝတ်ဆင်ခဲ့ပါမူ၊ ၎င်းအပေါ် ၌ အပြစ်ငရဲထိုက်ပေအံ့ဟု တမန်တော်မြတ် (စွ) က မိန့်ကြားခဲ့၏။ (အဗူဒါဝူးဒ် ကျမ်း)

၅။ အမျိုးသမီးတို့မှာ မိမိလက်တွင် ဒါန်းနီများကို ဆိုးမြဲဆိုးနေသင့်၏။(အဗူဒါဝူးဒ်ကျမ်း)

၆။ တမန်တော်မြတ် (စွ) က မိန့်ကြားခဲ့သည်။ အမျိုးသမီးများ ဆွတ်သော ရေမွှေးနံ့သည် အရောင်စွန်း၍ အနံ့ပျော့သောရနံ့သာဖြစ်ရမည်။

၇။ အမျိုးသမီးများသည် ပါးလွှာသောအဝတ်များ မဝတ်ဆင်ရ။ အကယ်၍ ခြုံထည်ပါးလျှင် ၎င်းအောက်၌ ထူသောအဝတ်ကို ဝတ်ဆင်ရမည်။(အဗူဒါဝူးဒ်ကျမ်း)

၈။ အမျိုးသမီးတို့သည် ခြူသံပါသောလက်ဝတ်လက်စားများကို မဝတ်ဆင်ရ။ (အဗူဒါဝူးဒ်ကျမ်း)

၉။ အမျိုးသမီးများသည် အမျိုးသားများ ဝတ်ဆင်သကဲ့သို့လည်းကောင်း၊ အမျိုးသားများသည် အမျိုးသမီးများ ဝတ်ဆင်သကဲ့သို့လည်းကောင်း ဝတ်ဆင်နေထိုင်ကြလျှင် ၎င်းနှစ်ဦးစလုံးအပေါ်သို့ အရှင်မြတ်၏ "လာအနတ်" အမျက်ရှမှုခံရ၏ဟု တမန်တော်မြတ် (စွ) က မိန့်ကြားခဲ့၏။ (ဗိုခါရီကျမ်း)

၁၀။ ထို့အပြင် တမန်တော်မြတ် (စွလလ္လဟုအလိုင်ဟိဝစလ္လာမ်) က မိန့်ကြားတော်မူခဲ့၏။ အမျိုးသမီးတို့သည် ဘယ်သောအခါမှ သူစိမ်းတရံစာ အမျိုးသားများနှင့် တစ်နေရာတည်း မနေထိုင်ရ။ ထို့အပြင် အမျိုးသမီးများသည် သွေးရင်းသားရင်းမှအပ မည်သူနှင့်မျှ ခရီးအတူမထွက် ရပေ။ (ဗိုခါရီကျမ်း)

လေ့ကျင့်ခန်း (၁၃)

၁။ အမျိုးသမီးများ လမ်းထွက်လျှင် မည်သို့သွားရမည်နည်း။

၂။ အမျိုးသမီးတို့သည် အဝတ်၊ ဘယက်တန်ဆာများ မည်သို့ ဝတ်ဆင်ရပါသနည်း။

၃။ ခရီးထွက်ခြင်းနှင့် သူစိမ်းအကြား နေထိုင်ရမည့်အကြောင်း တမန်တော်မိန့်ဆိုချက်ကို ရေးပြပါ။

# သင်ခန်းစာ (၁၄)

# ခရီးထွက်ခြင်း၏ စည်းကမ်းများအကြောင်း

မွတ်စ်လင်မ်တို့သည် ခရီးထွက်ရန် အကြောင်းပေါ်ပေါက်လာလျှင် တမန်တော်မြတ် (ဆွ) က အောက်ပါအချက်များ ပြုကျင့်ဆောင်ရွက်နိုင်ရန် မိန့်ကြားခဲ့လေသည်။

- ❖ ခရီးမထွက်မီအလျှင် နဖစ်လ်စွလားသ်လေးရကာအတ်ဖတ်ခြင်းသည် မြတ်၏။
- ❖ တမန်တော်မြတ် (ဆွ) သည် ကြာသပတေးနေ့ ခရီးထွက်ခြင်းကိုနှစ်သက်တော်မူလေ့ရှိ၏။ (ဗိုခါရီကျမ်း)
- ❖ တမန်တော်မြတ် (ဆွ) သည် တစ်ဦးတည်ခရီးထွက်ခြင်းကို တားမြစ်တော်မူ၏။ သို့သာမက နှစ်ဦးတည်းခရီးထွက်ခြင်းကိုပင် မနှစ်မြို့ပေ။ ခရီးထွက်စဉ်၌ ခရီးသွားဖော် သုံးဦးရှိစေရန် နှိုးဆော်ခဲ့၏။ (သစ်ရ်မေဇီကျမ်း)
- ❖ ခရီးသွားသည့်အခါ ခရီးသွားဖော် လေးဦးရှိက ပိုကောင်း၏။ (အဗူဒါဝူးဒ်ကျမ်း)
- ❖ ခရီးသွားဖော်သုံးဦးသာရှိလျှင် တစ်ဦးအား (အမီးရ်) ခေါင်းဆောင်အဖြစ် ခန့်အပ်ရ၏။ ထို့ပြင် ခရီးစဉ်၌ အသုံးအဆောင်အပိုအလျှံရှိသူသည် နည်းပါးသူအား သတိပြု ကူညီရမည်။ (မွတ်စ်လင်မ်ကျမ်း)
- ❖ ညအချိန်မတော် ခရီးဝေးမှ ပြန်ရောက်လျှင် မိမိအိမ်သို့ အလျင်စလို ပြန်မသွားရ။
- ❖ ခေါင်းဆောင်ဖြစ်သူသည် အများအကျိုး သယ်ပိုးသူဖြစ်ရမည်။
- ❖ ခရီးတွင် လူကို ဘေးဒုက္ခရောက်စေသော တိရစ္ဆာန်များ ယူဆောင်မသွားရ။
- ❖ ခရီး၌ တိရစ္ဆာန်များကို ယူဆောင်လျှင် စိမ်းလန်းစိုပြေသော ရာသီဖြစ်က အစာကျွေး၍ သွားရမည်။
- ❖ ပူပြင်းခြောက်သွေ့သောရာသီဖြစ်က ခရီးကို မြန်မြန်လိုရာစခန်းရောက်အောင် သွားစေရမည်။
- ❖ ခရီးသွားသည့်အခါ တိရစ္ဆာန်ကို လိုအပ်သည်ထက် ပိုမခိုင်းစေရ။
- ❖ တိရစ္ဆာန်များ၏ ကျောကို ထိုင်ခုံပြု၍ စကားပြောခြင်းမပြုရ။
- ❖ လိုရာခရီးသို့ရောက်လျှင် ဦးစွာတိရစ္ဆာန်များကို အနားပေးပါ။ ထို့နောက်မှ နဖစ်လ်စွလားသ်များဖတ်ပါ။
- ❖ တိရစ္ဆာန်များ၏ လည်ပင်းတွင် ချောမွတ်သောကြိုးများ မချည်ရ။ ရံဖန်ရံခါ ပွန်းပဲ့ပြတ်သွားမည်ကို စိုးရိမ်ရ၏။(အဗူဒါဝူးဒ်ကျမ်း)
- ❖ စခန်းချသည့်အခါ တစ်စုတစ်ဝေးတည်းဖြစ်ရမည်။ တစ်ကွဲတစ်ပြားမနေရ။
- ❖ လမ်းပိတ်၍စခန်းမချရပေ။

❀❀❀

ခရီးထွက်ခြင်း၏ ခက်ခဲမှုတို့သည် ဂျဟန္နမ်၏ အစိတ်အပိုင်းတစ်ခုဖြစ်သည်ဟု တမန်တော်မြတ် (စွ) က မိန့်ကြားခဲ့၏။

ခရီးတွင် အသင်တို့အား စားခြင်း၊ သောက်ခြင်း၊ အိပ်ခြင်း စသည်တို့မှ အတား အဆီး ပြု၏။ ထို့ကြောင့်မိမိကိစ္စပြီးလျှင် ပြီးချင်း ဆောလျှင်စွာ အိမ်သို့ပြန်လာရမည်။

<u>လေ့ကျင့်ခန်း (၁၄)</u>

၁။ ခရီးမထွက်ခင် အလျှင်မည်သည့်အလုပ်ပြုရမည်နည်း။

၂။ တမန်တော်မြတ်သည် မည်သည့်နေ့ ခရီးထွက်ခြင်းကို နှစ်သက်သနည်း။

၃။ ခရီးသွားဖော်နှင့် ပတ်သက်၍ တမန်တော်မြတ်မိန့်ကြားချက်ရေးပါ။

၄။ ခေါင်းဆောင်ဟူသည် အဘယ်နည်း။ ရှင်းပြပါ။

၅။ ခရီး၌ တိရစ္ဆာန်ပါလျှင် မည်သို့ ပြုရမည်နည်း။

၆။ စခန်းချသည့်အခါ မည်သို့ပြုရ၍ မည်သို့မပြုရပါသနည်း။

၇။ ခရီး၏ ခက်ခဲမှုနှင့် ပတ်သက်၍ တမန်တော်မြတ်၏ မိန့်ကြားချက်ကို ရေးပါ။



# သင်ခန်းစာ (၁)
# နဗီတမန်တော်အာဒမ် (အလိုင်ဟိဿလာမ်) အကြောင်း

## ဖန်ဆင်းခြင်း

ကမ္ဘာ့ပထမဦးဆုံးလူသား အာဒမ် (အ) အား အလ္လာဟ်အရှင်မြတ်သည် (ဂျန်မာ) သောကြာနေ့တွင် ဖန်ဆင်းတော်မူခဲ့သည်။ သို့ရှိရာ အာဒမ် (အ) သည် အဘွတ်လ်ဘရှ်ရိ (ဝါ) လူသားများ၏ ပထမဦးဆုံး ဖခင်ကြီးဖြစ်တော်မူသည်။

တမန်တော်အာဒမ် (အ) သည် သောကြာနေ့၌ပင် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်စံမြန်းရလေသည်။ ဂျန္နသ်သုခဘုံတွင် အလ္လာဟ်အရှင်မြတ်က သစ်ပင်တစ်ပင်၏ အသီးကို မစားသုံးရန် တမန်တော်အာဒမ် (အ) အား အမိန့်ထုတ်ထားတော်မူသည်။ ၎င်းပြင် ဖခင်ကြီး အာဒမ် (အ) အား အဖော်အဖြစ် မိခင်ဟာဝါ (အ) သခင်မကစ်ဦးပါ ဖန်ဆင်းပေးတော်မူခဲ့သည်။

ထိုသို့ဂျန္နသ်သုခဘုံတွင် နေထိုင်စဉ် အလ္လဟ်အရှင်တားမြစ်ပိတ်ပင်ထားသော သစ်ပင်၏အသီးကို စားသုံးမိသဖြင့် အလ္လာဟ်အရှင်မြတ်က ပြစ်ဒဏ်ခတ်သည့် အနေဖြင့် ဂျန္နသ်သုခဘုံမှ လူ့ဘုံလောကသို့ ပို့ချပစ်တော်မူခဲ့လေသည်။

အလ္လာဟ်အရှင်မြတ်က လူ့လောကသို့ စေလွှတ်သည့်အခါမှာ ဖခင်၊ မိခင်တို့ကို တစ်နေရာတည်းမှာ မစေလွှတ်ဘဲ တစ်ယောက်တစ်နေရာစီ ပို့ချတော်မူခဲ့သည်။

ဖခင်ကြီးအာဒမ် (အ) ကို အိန္ဒိယနိုင်ငံတောင်ပိုင်းရှိ "စန်ဟတ်လ်ဒီး" ကျွန်းသို့ ဆင်းသက်စေခဲ့ပြီး၊ မိခင်ကြီးဟာဝါ (အ) ကို လက်ရှိဆော်ဒီအာရေဗျနိုင်ငံ "ဂျဒ္ဒါမြို့" သို့ ဆင်းသက်စေခဲ့လေသည်။

## မိခင်ဖခင်တို့၏ ပူဆွေးမှု

အလ္လာဟ်အရှင်မြတ်၏ အကြီးဆုံးသော "နေအ်မတ်" (စည်းစိမ်) ဆုလာဘ်ဖြစ်သည့် ဂျန္နသ်သုခဘုံမှ စွန့်ခွာခဲ့ရခြင်းကြောင့် ဖခင်ကြီးအာဒမ် (အ) နှင့် မိခင်ကြီးဟာဝါ (အ) တို့သည် နှမြောတသပူဆွေးမိကြကာ နှစ်ပေါင်း (၂၀၀) တိတိ အလွမ်းမျက်ရည်များ ကျခဲ့ကြလေသည်။ထို့ပြင် လူ့ဘုံလောက၌ ရက်ပေါင်း (၄၀) လေးဆယ်တိုင်တိုင် မစားမသောက်ဘဲ နေတော်မူခဲ့ကြလေသည်။

## အာရ်ဖားသ်ကွင်းပြင်

လူသားများ၏ ဖခင်အာဒမ် (အ) နှင့် မိခင် ဟဝါ (အ) တို့သည် လူ့လောကတွင် တစ်ယောက်တစ်နေရာစီ နေထိုင်တော်မူခဲ့ကြရာမှ ဇွတ်လ်ဟဂျ်လမြတ် (၉) ရက် "အာရ်ဖားသ်" နေ့တွင် ဆော်ဒီအာရေဗျနိုင်ငံ၊ မက္ကာမြို့အနီးရှိ "အာရ်ဖားသ်ကွင်းပြင်ကြီး" တွင် **ဖခင်၊ မိခင်ကြီးနှစ်ပါးတို့သည် ပြန်လည်ဆုံတွေ့ခဲ့ကြလေသည်။ တစ်ဦးနှင့် တစ်ဦးလည်း မှတ်မိကြလေသည်။ထိုသို့တွေ့ဆုံပြီး တစ်ဦးကို တစ်ဦး မှတ်မိကြပုံကို အကြောင်းပြုကာ ၎င်းကွင်းပြင်ကြီးအား "အာရ်ဖားသ်" ကွင်းပြင်ကြီးဟု ယနေ့တိုင် ခေါ်ဝေါ်ကြလေသည်။**

## ဖခင်ကြီး၏ အရှက်အကြောက်

ဖခင်ကြီးတမန်တော်အာဒမ် (အ) သည် ဂျန္နသ်သုခဘုံအား စွန့်ခွာရပြီး လူ့လောကဘုံသို့ ဆင်းသက်ခဲ့ရခြင်းကြောင့် အလ္လာဟ်အရှင်မြတ်အား အလွန်ရှက်ကြောက်တော်မူသဖြင့် နှစ်ပေါင်းသုံးရာ (၃၀၀) တိုင်တိုင် ဦးခေါင်းတော်အား အာကာသအထက်သို့ မဖော်ခဲ့ပါ။အချိန်ရှိသရွေ့ "တောင်ဗာဟ်" အမှားဝန်ချတောင်းပန်လျှက်ရှိပြီး၊ အရှက်မျက်ရည်များ ငိုကြွေးလျှက်ပင် နေတော်မူခဲ့လေသည်ဟု သမိုင်းပညာရှင် "ရှယ်အစ်ဗနိအောင်ရှတ်ဗ်" သခင်က သမိုင်းကျမ်း၌ မိန့်ကြားထားလေသည်။

## တမန်တော်အာဒမ် (အ) ၏ မျက်ရည်

ကမ္ဘာမြေပြင်ပေါ်ရှိ လူသားအပေါင်းတို့၏ မျက်ရည်များကို စုပေါင်းလိုက်ပါက ဖခင်ကြီးအာဒမ် (အ) က ငိုယို၍ ကျခဲ့သော မျက်ရည်များမှာ လူသားအပေါင်းတို့၏ မျက်ရည်များထက် ပိုမိုများပြားလိမ့်မည်ဖြစ်သည်။

## "ဝဖားသ်" ကွယ်လွန်ခြင်း

ဖခင်ကြီး တမန်တော်အာဒမ် (အ) သည် လူ့ဘုံလောကတွင် နှစ်ပေါင်းတစ်ထောင် (၁၀၀၀) သက်တော်ထင်ရှား နေထိုင်တော်မူခဲ့ပြီး "ဂျုမ္မာ" သောကြာနေ့တွင်ပင် ဝဖားသ်ပြု အရှင့်အမိန့်တော်ကို ခံယူခဲ့လေသည်။

မှတ်ချက်

# လူသားအစ အာဒမ်က

မှတ်ချက် ။ ။ **"လူသားအစ အာဒမ်က"** ကမ္ဘာ့ပထမဦးဆုံးလူသားမှာ တမန်တော်အာဒမ် (အ) ဖြစ်ခဲ့သည်။ သို့ရှိရာ **"လူသားအစအာဒမ်က"** ဟူသောဆောင်ပုဒ်အား စွဲစွဲမြဲမြဲမှတ်သားသင့်ပေသည်။

လေ့ကျင့်ခန်း (၁)

(၁) ဖခင်ကြီးအာဒမ် (အ) နှင့် မိခင်ကြီးဟာဝါ (အ) သခင်မတို့ အဘယ်ကြောင့် လောကသို့ ဆင်းခဲ့ရသနည်း။

(၂) ဖခင်ကြီးနှင့် မိခင်ကြီးတို့သည် လူ့ပြည်ရှိ မည်သည့်နေရာများသို့ ကျရောက်ခဲ့ကြပါသနည်း။

(၃) ဖခင်ကြီးနှင့် မိခင်ကြီးတို့သည် လောက၌ မည်သို့ နေထိုင်ကြရပါသနည်း။

(၄) "အာရ်ဖားသ်" ကွင်းပြင်ဟု ခေါ်ဝေါ်ရခြင်းကို ရှင်းပြပါ။

(၅) ဖခင်ကြီးသည် မည်သို့ အရှက်အကြောက်ရှိသော ပုဂ္ဂိုလ်ဖြစ်သနည်း။

(၆) ဖခင်ကြီးသည် နှစ်ပေါင်းမည်မျှ လောက၌ နေထိုင်ခဲ့ရပါသနည်း။

# သင်ခန်းစာ (၂)

## တမန်တော်နူးဟ် (အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော်နူးဟ် (အ) ၏ ဖခင်အမည်မှာ အဗ္ဗဒွလ်လဟတ်က်ဖြစ်သည်။ ယင်း တမန်တော်၏ အမည်ရင်းမှာ အပ္ပဒွလ်အဗ္ဗာရ်ဖြစ်သည်။ သို့သော်လည်း အလ္လာဟ်အရှင်မြတ် အား ကြောက်ရွံ့သဖြင့် လွန်မင်းစွာ ငိုကြွေးခြင်းကြောင့် "နူးဟ်" ဟု အမည်တွင်ခဲ့လေသည်။ နူးဟ်ဟူသော အာရ်ဗီဝေါဟာ၏ အဓိပ္ပါယ်မှာ ငိုကြွေးခြင်းဟု အဓိပ္ပါယ်ရသည်။

တမန်တော်နူးဟ် (အ) သည် မိမိ၏ အွမ္မသ်အမျိုးသားများအား အလ္လာဟ်အရှင်မြတ် ၏ တရားလမ်းမှန်ဖက်သို့ မျှော်လင့်ချက်ကင်းမဲ့သွားခဲ့သည့် အချိန်တွင် မုန်တိုင်းများ တိုက်ခတ် စေပြီး၊ ပြစ်ဒဏ်ချမှတ်ရန် အလ္လာဟ်အရှင်မြတ်ထံတော်ပါးဝယ် တောင်းခံမှုပြုလေသည်။

တမန်တော်နူးဟ် (အ) ၏ တောင်းခံချက်အရ၊ ၄င်း၏အွမ္မသ်အမျိုးသားများ အပေါ် အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးမှ ပြင်းထန်သော မုန်တိုင်းကြီး တိုတ်ခတ်လေသည်။ ထိုအခါတရားလမ်းမှန်ကိုကျောခိုင်း၍ အလ္လာဟ်အရှင့်အမိန့်တော်အားဖီဆန်ခဲ့သူအပေါင်း တို့သည် ဖော်ပြပါမုန်တိုင်းကြီး ပြစ်ဒဏ်သင့်ကာ သေကြေနစ်မြုပ်ပျက်စီးခဲ့ကြကုန်လေသည်။

အဆိုပါပြစ်ဒဏ်မုန်တိုင်းကြီး ငြိမ်သက်သွားပြီးနောက်ပိုင်းတွင် ဤ ကမ္ဘာကြီးသည် ဒုတိယအကြိမ်စည်စည်ကားကား ပြန်လည်ဖြစ်လာခဲ့သည်။ ဤဒုတိယကမ္ဘာကြီး ပြန်လည် စည်ကားလာရခြင်းမှာ တမန်တော်နူးဟ် (အ) ၏ သားတော်သုံးပါး (၁) ဆားမ် (၂) ဟာမ်း နှင့် (၃) ယာဖစ်ဖ်တို့မှ ဖြစ်ပေါ်လာခဲ့သည်။

ဒုတိယကမ္ဘာမှာ တမန်တော်နူးဟ် (အ) ၏ သားစဉ်မြေးဆက်မှ ပြန်လည်စည်ကား လာခြင်းကို အကြောင်းပြု၍ တမန်တော်နူးဟ် (အ) အား "အာဒမ်စာနီ" (ဝါ) ဒုတိယအာဒမ် (လူသားများ၏ ဒုတိယဖခင်) ဟူ၍ တင်စားခေါ်ဆိုကြလေသည်။

ကမ္ဘာကျော်ပြစ်ဒဏ်မုန်တိုင်းကြီး တိုက်ခတ်ပြီး နောက် နှစ်ပေါင်းခြောက်ဆယ် (၆၀) တိတိ တမန်တော်နူးဟ် (အ) သည် ဒွန္နယာလောက၌ သက်တော်ထင်ရှား နေထိုင် တော် မူခဲ့သည်။ ထို့နောက် သက်တော် (၉၅၀) ကိုးရာငါးဆယ်နှစ်အရွယ်တွင် ဝဖားသ်ပြု အရှင့်အမိန့်ကို ခံယူကာ ဤလောကမှ စွန့်ခွာသွားလေသည်။

### လေ့ကျင့်ခန်း (၂)

(၁) နူးဟ်၏အဓိပ္ပါယ်ကိုဖော်ပြ၍ နူးဟ်အမည်ခေါ်ဝေါ်ရခြင်းကို ရေးသားပါ။

(၂) တမန်တော် နူးဟ်(အ)သည် အရှင်မြတ်ထံ မိမိအွမ္မဒ်အမျိုးသားများအပေါ်၌ ပြစ်ဒဏ်ကျ စေရန်အဘယ်ကြောင့် တောင်းခံခဲ့ပါသနည်း။

(၃) တမန်တော်နူးဟ်(အ)၏ အွမ့်မှသ်အမျိုးသားများ အပေါ် အလ္လာဟ်အရှင်မြတ်က မည်သို့သော ပြစ်ဒဏ်ကျရောက်စေခဲ့ပါသနည်း။

(၄) ဒုတိယကမ္ဘာဆိုသည်မှာ အဘယ်နည်း။

(၅) ဒုတိယ အာဒမ်ဆိုသူမှာ မည်သူနည်း။

(၆) တမန်တော်နူးဟ်(အ)သည် ပြစ်ဒဏ်မုန်တိုင်းအပြီး လောကတွင် နှစ်မည်မျှရှိပြီး၊ ၁က်တော်မည်မျှတွင် ကွယ်လွန်ပါသနည်း။

## သင်ခန်းစာ (၃)

## တမန်တော်ဒါဝူးဒ် (အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော်ဒါဝူးဒ် (အ) ၏ဖခင်အမည်မှာ အီစာဖြစ်သည်။၎င်းတမန်တော်သည် အရှင်မြတ်အား များစွာ အေဗဒတ်သ်ပြုပြီး လောကစည်းစိမ်များအား ကျော်ခိုင်းသော နဗီ တမန်တော်တစ်ပါးလည်းဖြစ်သည်။

တမန်တော်ဒါဝူးဒ် (အ) ၏ ရုပ်ဆင်းသဏ္ဍာန်မှာ အရုပ်အမောင်းပုံ၏။ မျက်နှာတော်မှာ နီရဲလျှက်ရှိပြီး၊ ဦးခေါင်းရှိဆံတော်မှာ ဖြောင့်တန်းလျှက်ရှိသည်။ ဒါရီ (မုတ်ဆိတ်) မှာ ရှည့်လျား၍ အချို့သော မုတ်ဆိတ်တော်များသည် ကောက်ကွေးလျှက်ရှိသည်။ မျက်နှာတော် အလွန်လှပတင့်တယ်ပြီး၊ မှန်မြတ်သောစာရိတ္တဖြင့် ပြည့်စုံတော်မူသည်။ အသံတော်မှာလည်း အလွန်သာယာလှပသည်။နဗီတမန်တော်လည်းဖြစ်ပြီး၊ တိုင်းပြည်ကိုလည်း အုပ်ချုပ်ရသော ဘုရင်တစ်ပါးဖြစ်ခဲ့သည်။ တမန်တော်ဒါဝူးဒ် (အ) သည် ငယ်ရွယ်စဉ်ကပင် တောင့်တင်းသော ခန္ဓာကိုယ်ဖြင့် ဝဝဖြိုးဖြိုးရှိခဲ့သည်။ ထို့ကြောင့် ခန္ဓာကိုယ် တောင့်တင်းခိုင်မာလှသော ဂျာလူးသ်အမည်ရှိ ကာဖိရ်မိစ္ဆာအား သတ်ဖြတ်နိုင်ခဲ့သည်။

တမန်တော်ဒါဝူးဒ် (အ) သည် ကိုယ်တော်တိုင် သံချပ်အင်္ကျီကို ပြုလုပ်တော်မူသည်။ ၎င်းလုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်းပြုတော်မူခဲ့သည်။ညဖက်တွင် မအိပ်ဘဲ "အေဗာ ဒတ်သ်" ပြုတော်မူပြီး တစ်ရက်ခြားရှိဇာဟ်ဥပုသ်စောင့်တည်တော်မူခဲ့သည်။

တမန်တော်ဒါဝူးဒ် (အ) ၏ ခေတ်ကာလ၌ အိုင်လာဒေသနေ အမျိုးသားများသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို ဖီလာဆန့်ကျင်ကြသည်။ အရှင်မြတ်က စနေနေ့တွင် ငါးမဖမ်းကြရဟုသော အမိန့်ကိုဆန့်ကျင်၍ ထိုနေ့တွင် ငါးဖမ်းကြသောကြောင့် အပြစ်ဒဏ် အဖြစ် ဖီဆန့်သူအပေါင်းတို့အား လူအဖြစ်မှ မျောက်အဖြစ်သို့ ပြောင်းလဲပစ်တော်မူခဲ့လေ

သည်။ ထိုပြစ်ဒဏ်ခတ်ခြင်း ခံရသူတို့သည် မျောက်ဘဝဖြင့် သုံးရက်နေပြီး သေကြေပျက်စီးကုန်ကြလေသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်ဒါဝူးဒ် (အ) ထံသို့ "ဇဗူးရ်ကျမ်း" ကို ချပေးတော်မူခဲ့သည်။ တမန်တော်ဒါဝူးဒ် (အ) သည် ယခုလက်ရှိ ဂျေရုဆလင်မြို့၌ တည်ရှိသော "ဗိုင်တွလ်မိုကာဒတ်စ်" ကျောင်းတော်ကို အုတ်မြစ်ချတော်မူခဲ့သည်။

တမန်တော်ဒါဝူးဒ် (အ) သည် နှစ်ပေါင်း လေးဆယ် (၄၀) တိုင်တိုင် တိုင်းပြည်ကို မင်းလုပ်အုပ်ချုပ်တော်မူခဲ့လေသည်။

တမန်တော်ဒါဝူးဒ် (အ) သည် သက်တော်တစ်ရာ (၁၀၀) နှစ်တွင် အရှင့်အမိန့်ကို ခံယူခဲ့လေသည်။ ထိုအချိန် ဗိုင်တွလ်မိုကာဒတ်စ် ကျောင်းတော်မှာ ဆောက်တည်၍ မပြီးသေးသဖြင့် သားတော်စိုလေမန် (အ) အား ၎င်းကျောင်းတော်ပြီးမြောက်သည်အထိ တည်ဆောက်ရန် မှာတမ်းပြုခဲ့လေသည်။ နဗီတမန်တော်ဒါဝူးဒ် (အ) ကွယ်လွန်ချိန်၌ မြောက်သားတော် (ဇနီး) (၉၆) ပါးနှင့် သားတော် (၁၂) ပါး ကျန်ရစ်ခဲ့လေသည်။

လေ့ကျင့်ခန်း (၃)

(၁) တမန်တော်ဒါဝူးဒ် (အ) ၏ ရုပ်ဆင်းသဏ္ဍာန်ကို ဖော်ပြပါ။
(၂) တမန်တော်ဒါဝူးဒ် (အ) မည်သည့်အလုပ်ဖြင့် အသက်မွေးဝမ်းကြောင်း ပြုသနည်း။
(၃) တမန်တော်ဒါဝူးဒ် (အ) ၏ အေဗာဒတ်သ်ပြုပုံကို ဖော်ပြပါ။
(၄) တမန်တော်ဒါဝူးဒ် (အ) မည်သူတို့ကို ဒါအ်ဝါသ်ပြုသနည်း။ ရှင်းပြပါ။
(၅) တမန်တော်ဒါဝူးဒ် (အ) ထံ မည်သည့်ကျမ်းကျ၍ မည်သည့်ကျောင်း တည်ဆောက်ထားပါသနည်း။
(၆) တမန်တော်ဒါဝူးဒ် (အ) နှစ်မည်မျှ တိုင်းပြည်အုပ်ချုပ်၍ သက်တော်မည်မျှတွင် ကွယ်လွန်သနည်း။
(၇) တမန်တော်ဒါဝူးဒ် (အ) ကွယ်လွန်ချိန်တွင် ဇနီးနှင့် သားမည်မျှ ကျန်ခဲ့သနည်း။

# သင်ခန်းစာ (၄)

## တမန်တော်စိုလေမန်(အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော်စိုလေမန် (အ) သည် တမန်တော်ဒါဝူးဒ် (အ) ၏ သားတော်ဖြစ်သည်။ တမန်တော်စိုလေမန် (အ) ၏ ရုပ်ဆင်းသဏ္ဍာန်မှာ ဖြူဖွေးသော အရောင်အဆင်းရှိ၍ သန်မာထွားကြိုင်းသော ခန္ဓာကိုယ်ရှိပါသည်။ ဝဝဖြိုးဖြိုးနှင့် ချောမောလှပသော နဗီတစ်ပါးလည်း ဖြစ်ပါသည်။အသိဉာဏ်တော်မှာ အလွန်ထက်မြက်ပြီး၊ အလ္လာဟ်အရှင်မြတ်အား လွန်စွာမှ ကြောက်ရွံ့ရိုကျိုးသော တမန်တော်လည်းဖြစ်သည်။

တမန်တော်စိုလေမန် (အ) သည် ငယ်ရွယ်စဉ်ကပင် အသိဉာဏ်ထက်မြက်ခဲ့သည်။ မည်မျှထက်မြက်ခဲ့သည်ဆိုပါမူ ဖခမည်းတော်ဒါဝူးဒ် (အ) သည် တိုင်းရေးပြည်ရေးအမှုကိစ္စအဝဝတွင် သားတော်စိုလေမန် (အ) ထံတော်မှ အကြံဉာဏ်ယူ၍ ဆုံးဖြတ်တော်မူလေ့ရှိခဲ့သည်။ ဖခမည်းတော် ကွယ်လွန်အနိစ္စရောက်သောအခါ၊ တမန်တော်စိုလေမန် (အ) သည် သက်တော် (၁၃) နှစ်အရွယ်တွင် နန်းတက်၍ တိုင်းပြည်ကို မင်းလုပ်အုပ်ချုပ်တော်မူခဲ့လေသည်။

တမန်တော်စိုလေမန် (အ) သည် ရှိရှိသမျှသော သတ္တဝါများ၏ ပြောဆိုစကားများကို နားလည်ကျွမ်းကျင်သည်။ ဆိုးသွမ်းသောဂျင်န်ဘီလူးများ၊ ရှိရှိသမျှသော ဂျင်န်များ၊ သတ္တဝါများနှင့် လေတို့သည် တမန်တော်စိုလေမန် (အ) ၏ အမိန့်ကို နာခံရလေသည်။ လူသားများအား ဒုက္ခပေးသော ဂျင်န်ဘီးလူးများအား ရာသက်ပန် အကျဉ်းသားအဖြစ် ပြစ်ဒဏ်ချမှတ်တော်မူခဲ့သည်။

စပိန်နိုင်ငံကို အုပ်ချုပ်သော ဘုရင်မ၊ မယ်တော် “ဘီလ်ကစ်” သခင်မသည် တစ်ချိန်က မီးကိုးကွယ်သူဖြစ်သည်။ထိုမဟုတ်မမှန်သော ကိုးကွယ်မှုကို စွန့်လွှတ်၍ တမန်တော်စိုလေမန်(အ) ထံ အီမာန်သက်ဝင်ယုံကြည်ခဲ့သည်။ ထို့နောက်ချစ်လှစွာသော ကြင်ယာတော်အဖြစ် တင်မြှောက်ခြင်းခံရသည်။ ၄င်းပြင် သားသမီးများလည်း ထွန်းကားခဲ့သည်။

တမန်တော်စိုလေမန် (အ) သည် နန်းစံပြီး၊ စတုတ္ထမြောက်နှစ်တွင်“ဗိုလ်တွလ်မိုကာဒတ်စ်”ကျောင်းတော်အား တည်ဆောက်ခြင်းကို ပြန်လည်အစပြုခဲ့သည်။ နှစ်ပေါင်းလေးဆယ် (၄၀) တိုင်တိုင် တိုင်းပြည်ကို မင်းလုပ်အုပ်ချုပ်ခဲ့သည်။ တမန်တော်စိုလေမန် (အ) သည် သက်တော် (၅၃) နှစ်တွင် အဆွာတောင်ဝှေးတော်ကို ထောက်၍ ရုပ်တော်မူလျက်အရှင့် အမိန့်ကို ခံယူခဲ့လေသည်။

တမန်တော်စိုလေမန် (အ) ၏ ခန္ဓာကိုယ်သည် အသက်မရှိသော်လည်း တောင်ဝှေးတော်အား ထောက်လျက် နဂိုအတိုင်းပင်ရပ်တည်၍ နေခဲ့လေသည်။ ယင်းအတိုင်း တစ်နှစ်တာမျှရှိတော်မူခဲ့လေသည်။ ထိုတစ်နှစ်တာအတောအတွင်း ခြကောင်များသည် တောင်ဝှေးတော်အား စားခဲ့သည်။ ထို့ကြောင့် တောင်ဝှေးတော်သည် နှစ်ပိုင်းကျိုးသွား၍ တမန်တော်စိုလေမန် (အ) ၏ ခန္ဓာကိုယ်လည်း မြေပေါ်သို့ ဘုံးဘုံးလဲကျသွားလေသည်။

"ဗိုင်တွလ်မိုကာဒတ်စ်"ကျောင်းတော်အား ဆောက်တည်နေကြသော ဂျင်န်များသည် တမန်တော်စိုလေမန် (အ) ကွယ်လွန်အနိစ္စရောက်ကြောင်းကို ကြိုတင်မသိရှိခဲ့ကြချေ။ တစ်နှစ်တာကာလနောက်ပိုင်း တမန်တော်စိုလေမန် (အ) ၏ ရုပ်ကလပ်မြေပေါ်သို့ လဲကျသွားသောအခါမှ သိရှိခဲ့ကြခြင်းဖြစ်သည်။ တမန်တော်စိုလေမန် (အ) ၏ ကိုယ်ခန္ဓာအား အထက်ပါ အတိုင်း ရပ်တည်စေခဲ့ခြင်း၏ အကြောင်းရင်းမှာ –

(၁) "ဗိုင်တွလ်မိုကာဒတ်စ်" ကျောင်းတော်၏ တည်ဆောက်မှုမှာ မရပ်မစဲ ဆက်လက်တည်ရှိကာ အလျင်အမြန်ပြီးစီးဖြစ်မြောက်သွားစေရန်အတွက် တစ်ကြောင်းနှင့်

(၂) ဂျင်န်များသည် အကွယ်မှ အကြောင်းအရာများကို သိရှိနားလည်ခြင်း မရှိကြသည်ကို လူသားအပေါင်းတို့အား သိရှိနိုင်စေရန် အလ္လာဟ် အရှင်မြတ်က စီစဉ်ခြင်း ဖြစ်သည်။

သမိုင်းပညာရှင်များက တမန်တော်စိုလေမန် (အ) ၌ မြောက်သားတော် (ဇနီး) (၃၀၀) ရှိခဲ့ပြီး၊ ကျေးကျွန်မ တစ်ထောင် (၁၀၀၀) ရှိခဲ့သည်ဟု ရေးသားခဲ့ကြလေသည်။

**လေ့ကျင့်ခန်း (၄)**

(၁) တမန်တော်စိုလေမန် (အ) ၏ဖခင်အမည်ကိုရေးပါ။
(၂) တမန်တော်စိုလေမန် (အ) ၏ ရုပ်ဆင်းသဏ္ဌာန်ကိုရေးပါ။
(၃) တမန်တော်စိုလေမန် (အ) ၏ ငယ်ရွယ်စဉ် ထူးခြားမှုကိုရေးပါ။
(၄) တမန်တော်စိုလေမန် (အ) သည် မည်ကဲ့သို့သော အုပ်ချုပ်မှုရရှိခဲ့သနည်း။
(၅) ဘီလ်ကစ်သခင်မသည် မည်ကဲ့သို့သော သူမနည်း။
(၆) တမန်တော်စိုလေမန် (အ) သည် နှစ်မည်မျှ တိုင်းပြည်အုပ်ချုပ်၍ သက်တော်မည်မျှတွင် ကွယ်လွန်သနည်း။
(၇) တမန်တော်စိုလေမန် (အ) ၏သေဆုံးခြင်း၏ ထူးမြတ်မှုရေး၍ ဤသို့ဖြစ်ရခြင်းသည် အဘယ်နည်း။



F. 4A

# သင်ခန်းစာ (၅)
# တမန်တော်အိဒရီးစ်(အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော်အိဒရီးစ်(အ) ၏ဖခင်အမည်မှာ ဘာရ် (ဒ်) ဟုခေါ်ပါသည်။တမန်တော်၏ ရုပ်ဆင်းသဏ္ဌာန်မှာ ခန္ဓာကိုယ်အရောင်အဆင်းဖြူဖွေး၍ ဝဖြိုးသော ခန္ဓာကိုယ်ရှိသည်။ ကျယ်ပြန့်သော ရင်အုပ်တော်ရှိပြီး၊ အရပ်အမောင်းမှာ ထွားကြိုင်းလေသည်။ ဦးခေါင်းရှိ ဆံပင်မှာ သိပ်သည်းထူပစ်၍ မျက်လုံးနှစ်လုံးအနက်၊ တစ်လုံးမှာ အနည်းငယ်ကြီးသည်။ရင်အုပ်တော်ဘွင် သဘာဝအလျောက် ဖြူဆွတ်သော အသားပိုတစ်လုံးရှိသည်။ ၎င်းအသားပိုလုံးသည် ရောဂါကြောင့်မဟုတ်ပေ။

တမန်တော်အိဒရီးစ် (အလိုင်ဟိစ္စလာမ်) သည် တမန်တော်နူးဟ် (အလိုင်ဟိစ္စလာမ်) ၏ နောက်နှစ်ပေါင်း တစ်ထောင်ကျော်ရှိပြီးမှ ဖွားမြင်တော်မူခဲ့သည်။ တမန်တော်အိဒရီးစ် (အလိုင်ဟိစ္စလာမ်) သည် ဒွန်ယာလောက၌ သက်တော်သုံးရာ့ငါးဆယ် (၃၅၀) နှစ် အရွယ်ထိ နေထိုင်တော်မူခြင်းကို ခံခဲ့ရလေသည်။

## လေ့ကျင့်ခန်း (၅)

(၁) တမန်တော်အီးဒရီးစ် (အလိုင်ဟိစ္စလာမ်) ၏ ဖခင်အမည်ကိုရေးပြပါ။

(၂) တမန်တော်အီးဒရီးစ် (အလိုင်ဟ်စ္စလာမ်) ၏ ခန္ဓာကိုယ်မှ ထူးခြားသော အစိတ်အပိုင်းကိုဖော်ပြပါ။

(၃) တမန်တော်အီးဒရီးစ် (အလိုင်ဟိစ္စလာမ်) ကို မည်သည့် တမန်တော်၏ နောက်နှစ်ပေါင်း မည်မျှတွင် ဖွားမြင်သနည်း။

(၄) တမန်တော်အီးဒရီးစ် (အလိုင်ဟိစ္စလာမ်) သည် လောကတွင် သက်တော်မည်မျှ နေထိုင် ရပါသနည်း။

# သင်ခန်းစာ (၆)

## နဗီတမန်တော်လူးသ်(အလိုင်ဟိစ္စလာမ်) အကြောင်း

နဗီတမန်တော်လူးသ်(အလိုင်ဟိစ္စလာမ်) ၏ဖခင်အမည်မှာ "ဟာရာန်း" ဖြစ်ပါသည်။ တမန်တော်လူးသ်သည် တမန်တော်အိဗရာဟီးမ် (အလိုင်ဟိစ္စလာမ်) ၏ တူအရင်းတော်စပ်ပါသည်။ အကြောင်းမှာတမန်တော်လူးသ်၏ဖခင်နှင့် တမန်တော်အိဗရာဟီးမ်တို့သည် တစ်ဖအေတည်းမှ ပေါက်ဖွားလာသော ညီအစ်ကိုအရင်းအခြာဖြစ်ခြင်းကြောင့် ဖြစ်သည်။

တမန်တော်လူးသ်ကို တမန်တော်အိဗရာဟီးမ်က အလွန်ချစ်မြတ်နိုးခဲ့သည်။ တစ်ခါက ရောမလူမျိုးများသည် တမန်တော်လူးသ်အား ဖမ်းဆီး၍ အကျဉ်းချထားခဲ့ကြလေသည်။ ထိုအခါ တမန်တော်အိဗရာဟီးမ်(အ) သည် ရောမလူမျိုးများအား "ဂျေဟားဒ်"(သာသနာစစ်ထိုးမှု) ပြု၍ တူတော်သူအား ရောမလူမျိုးများ၏ အကျဉ်းချထားခြင်းခံရမှုမှ ကယ်တင်ခဲ့ဖူးလေသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်လူးသ် (အလိုင်ဟိစ္စလာမ်) ၏ အွမ္မသ်အမျိုးသားများတွင် လဝါသတ်သ် (ဝါ) အမျိုးသားအချင်းချင်း ကာမဆန္ဒစပ်ယှက်ခြင်းဟူသော လူညွှန့်တုံးစေသည့် စက်ဆုပ်ရွံရှာဖွယ်ကောင်းပြီး ယုတ်ညံ့သော စာရိတ္တမှာ အလွန်ဆိုးရွားပျံ့နှံ့လျက်ရှိခဲ့သည်။ တမန်တော်လူးသ်(အလိုင်ဟိစ္စလာမ်) သည် မိမိ၏ အွမ္မသ်အမျိုးသားများအား ဖော်ပြပါဆိုးရွားသည့် စာရိတ္တမှ ရှောင်ကြဉ်စွန့်လွှတ်ကြရန် အမျိုးမျိုးတင်ပြပြောဆိုမိန့်ကြားငြားသော်လည်း၊ အွမ္မတ် (သ်) အမျိုးသားများသည် ၎င်းအကျင့်ဆိုးအား စွန့်လွှတ်ရှောင်ကြဉ်ခြင်းမပြုခဲ့ကြပေ။ သို့ရှိရာ အလ္လာဟ်အရှင်မြတ်က ထိုအကျင့်စာရိတ္တ ပျက်စီးနေသော အွမ္မတ် (သ်) အမျိုးသားများအား ထိုမြို့တစ်မြို့လုံးရှိ ကမ္ဘာမြေကို လှန်ပစ်ရန် ဂျိဗရာအီးလ်ကောင်းကင်တမန်အား စေခိုင်း၍ (အဇားဗ်) အပြစ်ဒဏ်ခတ်လေသည်။ ထိုပြစ်ဒဏ်ကြောင့် တမန်တော်လူးသ် (အလိုင်ဟိစ္စလာမ်း) ၏ သွန်သင်ဆုံးမမှုအား လိုက်နာခြင်းမရှိသော သူများသည် တစ်ဦးမကျန် သေကြေပျက်စီးကုန်ကြလေသည်။

အထက်ဖော်ပြပါ ပြင်းထန်သော (အဇားဗ်) အပြစ်ဒဏ်မချမီ အလ္လာဟ်အရှင်မြတ်သည် တမန်တော်လူးသ် (အလိုင်ဟိစ္စလာမ်) နှင့် ၎င်းအပေါ် အီမာန်သက်ဝင်ယုံကြည်၍ သွန်သင်ဆုံးမမှုကိုလိုက်နာသူများအား ထိုပြစ်ဒဏ်ကျရောက်မည့် မြို့ရွာမှ အပြင်သို့ ထွက်စေခဲ့သည်။သို့ရှိရာ တမန်တော်လူးသ် (အလိုင်ဟိစ္စလာမ်) နှင့် အီမာန်သက်ဝင်ယုံကြည်သူအပေါင်းတို့သည် ဖော်ပြပါပြင်းထန်သည့် (အဇားဗ်) အပြစ်ဒဏ်မှ လွတ်ငြိမ်းချမ်းသာခွင့်ရရှိခဲ့ကြလေသည်။

**လေ့ကျင့်ခန်း (၆)**

(၁) တမန်တော်လူးသ်၏ အဖေအမည်ကိုရေးပါ။

(၂) တမန်တော်လူးသ်သည် တမန်တော်အိဗရာဟီးမ်နှင့် မည်သို့တော်စပ်ပါသနည်း။

(၃) တမန်တော်လူးသ်ကိုမည်သူတို့ကဖမ်းဆီး၍မည်သူကကယ်တင်ခဲ့သနည်း။စုံလင်စွာရေးပါ။

(၄) တမန်တော်လူးသ်၏ အွမ္မတ် (သ်) အမျိုးသားများ၏ အကျင့်စာရိတ္တ ပျက်စီးပုံကို ရေးပါ။

(၅) အမိန့်မနာခံသော အွမ္မတ် (သ်) အမျိုးသားများကို အလ္လာဟ်က မည်သို့ ဖျက်ဆီးသနည်း။

(၆) မည်သူတို့က ၎င်းအပြစ်ဒဏ်မှ လွတ်ကင်းပါသနည်း။



# သင်ခန်းစာ (၇)

## နဗီတမန်တော်ဟူးဒ်(အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော်ဟူးဒ်(အလိုင်ဟိစ္စလာမ်) ၏ဖခင်အမည်မှာ "အဗ္ဗဒ္ဒလ္လာဟ်" ဟုခေါ်ပါသည်။ တမန်တော် ဟူးဒ် (အလိုင်ဟိစ္စလာမ်) ၏ ခန္ဓာကိုယ်အရောင်အဆင်းမှာ ဂျုံနုရောင်ကဲ့သို့ ဖြူဖွေးပြီး အလွန်ချောမောလှပသော နဗီတမန်တော်တစ်ပါးဖြစ်သည်။ ရုပ်ဆင်းတော်အားဖြင့် ဖခင်ကြီးတမန်တော်အာဒမ် (အလိုင်ဟိစ္စလာမ်) နှင့် အလွန်ပင်တူလေသည်။

ကမန်တော်ဟူးဒ် (အလိုင်ဟိစ္စလာမ်) အား အလ္လာဟ်အရှင်မြတ်သည် "အားဒ်" အမျိုးအနွယ်ဝင် ပထမအုပ်စုဖက်သို့ နဗီအဖြစ် တင်မြှောက်၍ စေလွှတ်ခဲ့သည်။ ထိုစဉ်က "အားဒ်" အမျိုးအနွယ်ဝင်များသည် "အာမ္မာန်း" မြို့နှင့် "ဟာဇရာမော့သ်" မြို့၏ အကြားတွင် နေထိုင်ခဲ့ကြလေသည်။ ထို့ပြင် "ယီမင်း" နိုင်ငံ၏ ပတ်ဝန်းကျင်၌လည်း နေထိုင်ခဲ့ကြသည်။

"အားဒ်" အမျိုးအနွယ်ဝင်များ၏ ခန္ဓာကိုယ်တောင့်တင်းခိုင်မာထွားကျိုင်းမှုသည် အံ့အားသင့်လောက်အောင် ရှိခဲ့သည်။"အားဒ်" အမျိုးအနွယ်ဝင်များမှ အရပ်အပုဆုံးလူ၏ အရပ်အမောင်းမှာ အတောင် (၆၀) ခန့်ရှိသည်။ ခန္ဓာကိုယ်အလွန်ထွားကျိုင်းပြီး လူသန်မာများဖြစ်ခဲ့ကြသည်။၎င်းမျိုးနွယ်တစ်ဦးတစ်ဦး၏ "နတ်ရှ်သာ" (နံနက်စောစီးစွာ စားသောက်မှု) မှာ ကုလားအုပ်တစ်ကောင်ဖြစ်သည်။ ထိုခေတ်ထိုအခါက အလ္လာဟ်အရှင်မြတ်သည် ကုလားအုပ်များ ပေါက်ဖွားမှုကို တောတိုင်း၊ တောင်တိုင်းတွင် ပြည့်နှက်စွာ ပေါက်ဖွားစေခဲ့သည်။

"အားဒ်" အမျိုးအနွယ်ဝင်များသည် ၎င်းတို့ကဲ့သို့ သန်မာထွားကျိုင်းသော သူများတွေ့ မြင်ခြင်းမရှိသည့်အခါ၊ အင်အားနည်းပါးသော အလ္လာဟ်အရှင်မြတ်၏ အခြား (မခ်လူးက်) အဖန်ဆင်းခံများအား အထင်အမြင်သေးခြင်းသာမက ညှင်းပန်းနှိပ်စက်မှုများလည်း ပြုလုပ်ခဲ့ကြသည်။ ရုပ်ထုများကို ကိုးကွယ်ခြင်းဖက်သို့ ကိုင်းညွတ်လာခဲ့ကြသည်။

၄င်းတို့သည် မိမိတို့၏ သန်မာမှုကို အကြောင်းပြု၍ ဘဝင်မြင့်ကြ၏။ အကြောင်းမဲ့ အကျိုးမရှိသော ကြီးကျယ်ခမ်းနားသည့် အဆောက်အအုံများ တည်ဆောက်ကြ၏။ ထို့ပြင် ခိုင်ခန့်မြင့်မားသော ရဲတိုက်ကြီးများ တည်ဆောက်ရာတွင် အလွန်ဝါသနာထုံကြလေသည်။ "အားဒ်" အမျိုးအနွယ်ဝင် "ရှဒ်ဒါးဒ်" အမည်ရှိ ဘုရင်တစ်ပါးသည် "ဘာဂေအေရာမ်" မည်သော ဥယျာဉ်ကြီးအား တည်ဆောက်ခဲ့သည်။ ၄င်းဥယျာဉ်သည် လောက၌ ပြိုင်စံရှားဖြစ်သည်ဟူ၍ အလ္လာဟ်အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်တွင် မိန့်ကြားတော်မူခဲ့သည်။

တမန်တော်ဟူးဒ် (အလိုင်ဟိစ္စလာမ်) သည် "အားဒ်" အမျိုးအနွယ်ဝင်များအား သွန်သင်ဆုံးမခဲ့သည်။ အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းရှိကြောင်းနှင့် အလ္လာဟ်အရှင်မြတ် အပေါ် အီမာန်သက်ဝင်ယုံကြည်ကြရန် တိုက်တွန်းနှိုးဆော်ခဲ့သည်။ တုပနိုင်းယှဉ်ကိုးကွယ်ခြင်း၊ အလ္လာဟ်အရှင်မြတ်အား ငြင်းဆိုခြင်းနှင့် ရုပ်တုများအား ကိုးကွယ်ခြင်းမှ တားမြစ်ခဲ့သည်။ သို့သော် ၄င်းတို့သည် ကျွန်ုပ်တို့ထက် သန်မာထွားကျိုင်းသောသူ မည်မျှရှိ၍ ကျွန်ုပ်တို့အနေဖြင့် ၄င်း၏ အမိန့်ကိုနာခံရမည်နည်းဟု ပြောဆိုခဲ့လေသည်။

တမန်တော်ဟူးဒ် (အလိုင်ဟိစ္စလာမ်) ၏ ဆုံးမလမ်းညွှန်မှုကို ငြင်းဆန်ခဲ့သောကြောင့် "အားဒ်" အမျိုးသားများ၏ ဒေသ၌ မိုးခေါင်ခဲ့သည်။ သုံးနှစ်တိုင်တိုင် ပြင်းပြင်းထန်ထန် ကပ်ဆိုက်ခဲ့သည်။ လယ်ယာကိုင်းကျွန်းများ ခြောက်သွေ့ကာ ကောက်ပဲသီးနှံများလည်း လုံးဝ မရရှိခဲ့ကြပေ။

ကပ်ကြီး ဆိုက်ရောက်မှုကြောင့် "အားဒ်" အမျိုးသားများသည် အလွန်ထိတ်လန့်သွားခဲ့ကြသည်။ ထိုအခါ ထုံးတမ်းစဉ်လာအရ "အားဒ်" အမျိုးသားများမှ အချို့သော ခေါင်းဆောင်များသည် "ကာ့အ်ဗာ" ကျောင်းတော်သို့ ဝင်ရောက်ခစားကြကာ ရိုကျိုးစွာဖြင့် အလ္လာဟ်အရှင်မြတ်ထံတော်ပါး၌ မိုးရွာစေရန် ဆုပန်ကြသည်။

မိုးဆုပန်ကြပြီး နောက်ပိုင်းတွင် မိုးကောင်းကင်အထက်၌ မိုးသားတိမ်လိပ်သုံးခုဖြစ်ပေါ်လာသည်။ ထိုမိုးသားတိမ်လိပ် သုံးခုအနက် တစ်ခုမှာ အနီရောင်ရှိပြီး၊ ဒုတိယတစ်ခုမှာ အဖြူရောင်ဖြစ်၍ တတိယမိုးသားမှာ အနက်ရောင်ဖြစ်သည်။ ထိုအချိန်တွင် မိုးသားသုံးခုအနက် တစ်ခုခုအား အသင်တို့ ရွေးချယ်ကြလော့ဟု အကွယ်မှ အသံတစ်ခုပေါ်ထွက်လာသည်။ ခေါင်းဆောင်များသည် အနက်ရှိမိုးသားအား မိုးရေများစွာရရှိမည်ဟု ယူဆကာ ၄င်းအနက်ရောင်ရှိမိုးသားကို ရွေးချယ်ကြသည်။ သို့ရှိရာ ထိုအနက်ရောင်ရှိ မိုးသားသည် "ကာ့အ်ဗာ" ကျောင်းတော်အထက်မှ ယီမင်နိုင်ငံဖက်သို့ ဦးတည်ကာ ရွေ့လျားသွားပြီး "အားဒ်" အမျိုးသားများနေထိုင်ရာ ဒေသပေါ်သို့ ရပ်တန့်ခဲ့သည်။

"အားဒ်" အမျိုးသားခေါင်းဆောင်များ ယူဆခဲ့သည့်အတိုင်း အနက်ရောင်မိုးသားတွင် ရေများ မရရှိခဲ့ကြပါ။ အလ္လာဟ်အရှင်မြတ်၏ "အာဇာဗ်" အပြစ်ဒဏ်သာ ပါလာခဲ့

သည်။ ထိုအချင်းအရာကို အားဒ်အမျိုးအနွယ်ဝင်မှ "မဟဒ်" အမည်ရှိ အမျိုးသမီးတစ်ဦးသည် ဦးစွာပထမ မြင်တွေ့ခဲ့သည်။ ၄င်းအမျိုးသမီးသည် အားဒ်အမျိုးသားအပေါ် ဖုံးလွှမ်းနေသည့် အနက်ရောင်မိုးသားအတွင်း၌ မီးတောက်မီးလျှံများကို တွေ့ရှိကာ၊ အို ... အမျိုးသားအပေါင်းတို့ တမန်တော်ဟူးဒ် (အလိုင်ဟိစ္စလာမ်) အပေါ်သို့ အီမာန်သက်ဝင်ယုံကြည်ကြလေကုန်။ သို့မဟုတ်ပါက မကြာမီအတွင်း အသင်တို့သည် အပြစ်ရကြကုန်အံ့ဟု ဟစ်အော်ကြွေးကြော်ခဲ့လေသည်။ "အာဇာဗ်" အပြစ်ဒဏ်၏ အတိတ်နိမိတ်အကြောင်းကို အသိပေးခြင်းခံရသော်လည်း၊ ဂုဏ်မာနထောင်လွှား၍ မိမိကိုယ်မိမိ အထင်ကြီးနေကြသော အားဒ်အမျိုးသားများသည် မည်သို့မျှ နားလည်သဘောပေါက်ခြင်း မရှိခဲ့ကြချေ။

သို့ရှိရာ "အာဇာဗ်" အပြစ်ဒဏ်၏ အလွန်ပြင်းထန်သော လေနီကြမ်းကြီး တိုက်ခတ်လေသည်။ ၄င်းလေနီကြမ်းသည် အားဒ်အမျိုးသားများ နေထိုင်ရာနယ်မြေအား လှုပ်ခါသွားစေခဲ့သည်။ ထို့အပြင် တောင်ကြီးများ၊ ကျောက်တုံး၊ ကျောက်ခဲများ၊ သစ်ပင်ကြီးငယ်များအား အမြစ်မှနှုတ်ယူကာ အားဒ်အမျိုးသားများအပေါ် ကျရောက်စေခဲ့သည်။ ၄င်းလေနီကြမ်းသည် ခုနစ်ညနှင့် ရှစ်ရက်တိုင်တိုင် အဆက်မပြတ် တိုက်ခတ်ခဲ့သည်။

တမန်တော်ဟူးဒ် (အလိုင်ဟိစ္စလာမ်) နှင့် ၄င်းအပေါ် အီမာန်သက်ဝင်ယုံကြည်သူများမှအပ ကျန်အားဒ်အမျိုးသားအားလုံးသည် ၄င်းလေနီကြမ်း၏ ချေမှုန်းခြင်းကို ခံခဲ့ရလေသည်။ ဤကမ္ဘာမြေပေါ်တွင် သန်မာထွားကျိုင်းခဲ့သော အားဒ်အမျိုးသားများ၏ အစအနပင် ရှာမတွေ့အောင် ပျက်စီးသေကြေခဲ့ကြလေသည်။

တမာန်တော်ဟူးဒ် (အလိုင်ဟိစ္စလာမ်) သည် သက်တော် (၁၈၀) တစ်ရာ့ရှစ်ဆယ်နှစ် အရွယ်တွင် "ဝဖါးသ်" အရှင့်အမိန့်ကို ခံယူပြီး မက္ကာရွှေမြို့တော်၌ "ဒဖန်" မြှုပ်နှံခြင်း ခံတော်မူလေသည်။ အချို့သမိုင်းပညာရှင်များက "ဟဇရာမော့သ်" မြို့၌ လည်းကောင်း၊ "ဒမတ်ရှ်ကတ်" မြို့၌လည်းကောင်း မြှုပ်နှံသည်ဟု ဆိုကြလေသည်။

**လေ့ကျင့်ခန်း (၇)**

(၁) တမန်တော်ဟူးဒ်၏ အဖအမည်နှင့် ရုပ်ရည်ကိုရေးပြပါ။
(၂) တမန်တော်ဟူးဒ်အား နဗီအဖြစ်နှင့် မည်သည့်မြို့ မည်သည့်နေရာတွင် စေလွှတ်ခြင်း ခံရပါသနည်း။
(၃) အားဒ်အမျိုးအနွယ်အကြောင်းရေးပြပါ။
(၄) အားဒ်အမျိုးသားများ မည်သို့မာနထောင်ကြပါသနည်း။
(၅) တမန်တော်ဟူးဒ်၏ ဖိတ်ခေါ်မှုကို အားဒ်များမည်သို့ ပြုကြပါသနည်း။
(၆) အားဒ်အမျိုးသားများအပေါ် ကပ်ဆိုက်ပုံကိုရေးပြပါ။
(၇) အားဒ်အမျိုးသားများအပေါ် အလ္လာဟ်က မည်သို့ပြစ်ဒဏ်ချပါသနည်း။
(၈) တမန်တော်ဟူးဒ်သည် သက်တော်မည်မျှတွင်ကွယ်လွန်၍ မည်သည့်နေရာတွင်မြှုပ်နှံပါသနည်း။



# သင်ခန်းစာ (၈)

# နပီတမန်တော်ဆွာလေ့ဟ်(အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော် ဆွာလေ့ဟ်(အလိုင်ဟိစ္စလာမ်) ၏ဖခင်အမည်မှာ အဗိုးဒ်ဟုခေါ်ပါသည်။ တမန်တော်၏ မျိုးရိုးစဉ်ဆက်နှင့် ပတ်သက်ပြီး သာသနာ့သမိုင်းပညာရှင်များအကြား အကွဲအလွဲရှိပါသည်။

တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) ၏ ခန္ဓာကိုယ်အရောင်အဆင်းမှာ အဖြူ ပေါ် အနီရောင်သမ်းသည်။ ဦးခေါင်းရှိဆံပင်များမှာ ဖြောင့်တန်းစွာရှိ၏။ ဖိနပ်စီးခြင်း မပြုဘဲ သွားတော်မူလေ့ရှိသည်။ ဗလီဝတ်ကျောင်းတော်မှအပ အခြားမည်သည့်နေရာမှ စခန်းချနေ ထိုင်ရန် သတ်မှတ်ခြင်း မပြုခဲ့ပေ။

တမန်တော်ဟူးဒ် (အလိုင်ဟိစ္စလာမ်) ၏ နောက်နှစ်ပေါင်း (၁၀၀) အကြာတွင် နပီအဖြစ် တင်မြှောက်ခြင်းခံခဲ့ရပြီး စမူးဒ်အမျိုးအနွယ်တို့အား "ဒါအ်ဝါ့သ်" လမ်းမှန် တရားဖိတ်ခေါ်မှုပြုရန် နပီအဖြစ်စေလွှတ်ခြင်းခံရလေသည်။

ထိုအချိန်အခါက စမူးဒ်အမျိုးအနွယ်တို့သည် "ဟေဂျာဇ်" "ဆော်ဒီအာရေဗျ" နှင့် (ရှားမ်) (ဆီးရီးယားနိုင်ငံ) အကြား (၁၈) မိုင် ပတ်ဝန်းကျင်အထိ ကျယ်ပြန့်လျှက်ရှိသော (ဝါဒီအတ်လ်ကိုရာ) အမည်ရှိ နယ်မြေဒေသတွင် နေထိုင်ခဲ့ကြ၏။ စမူးဒ်မျိုးနွယ်တို့သည် သံဖြင့် ရုပ်တုတစ်ခုပြုလုပ်ထားကာ ၄င်းရုပ်တုအား "စဂ်ဒါ" ဦးချလေ့ရှိခဲ့ကြသည်။ ထိုအပြင် ၄င်းရုပ်ထုအား မိမိတို့၏ ခဝပ်ကိုးကွယ်ထိုက်သောအရှင်အဖြစ် မှတ်ယူလျက်ရှိခဲ့ကြသည်။

တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) သည် စမူးဒ်အမျိုးသားများအား ကြိမ်ဖန်များစွာ အလ္လာဟ်အရှင်မြတ်အပေါ် အီမာန်သက်ဝင်ယုံကြည်ကြရန် "ဒါအ်ဝါ့သ်" ပေး ဖိတ်ခေါ်ခဲ့သည်။ သို့သော်လည်း ယင်းဖိတ်ခေါ်မှုကို လက်မခံခဲ့ကြချေ။

စမူးဒ်အမျိုးသားများမှ ခေါင်းဆောင်အချို့သည် တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) အား "အသင်သည် အမှန်တကယ် နပီဖြစ်ခဲ့သော် ဤမာကျောသော ကျောက်ဆောင်အတွင်းမှ ဓိုးရှိသော ကုလားအုပ်မ တစ်ကောင်ထုတ်ပေးပြီး၊ ကျွန်ုပ်တို့၏ ရှေ့မှောက်၌ပင် သားမွေးပြ ရမည်" ဟု တောင်းဆိုကြသည်။ ထိုအခါ တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) သည် ချက်ခြင်းပင် အရှင့်ထံ စဂ်ဒါဦးချကာ ဒိုအာဆုပန်ခဲ့လေသည်။ ထိုအခါ စမူးဒ်ခေါင်းဆောင် များ လမ်းညွှန်ပြခဲ့သော ကျောက်ဆောင်ကြီးသည် မိမိ တည်နေရာတွင်လှုပ်လျှက် အက်ကွဲ လာပြီး၊ ၄င်းအတွင်းမှ ကုလားအုပ်မတစ်ကောင် ပေါ်ထွက်လာကာ၊ စမူးဒ်ခေါင်းဆောင်တို့ ရှေ့မှောက်တွင်ဒူးထောက်ထိုင်ချကာ သ...မွားပြခဲ့သည်။ ထို့နောက် စားကျက်ကွင်းရှိရာ ကွင်းပြင်သို့ လျှောက်သွားလေသည်။ မွေးကင်းစ ကုလားအုပ်ကလေးမှာလည်း နောက်မှ လိုက်ပါသွားခဲ့လေသည်။

ထိုအချင်းအရာကိုမြင်တွေ့ကြရသောစမူးဒ်အမျိုးသားများသည် အလွန်အံ့အားသင့်ခဲ့ကြပြီး၊ အစုလိုက်အပြုံလိုက် အီမာန်သက်ဝင်ယုံကြည်ခဲ့ကြသည်။ တစ်နေ့နှင့် တစ်ညတာ၌ ထောင်ပေါင်းများစွာသော သူတို့ အီမာန်လက်ခံခဲ့ကြသည်။ သို့သော်လည်း နောက်တစ်နေ့ မိုးလင်းလာသည့်အခါ အီမာန်သက်ဝင်ယုံကြည်ခြင်းကို ငြင်းဆန်ခဲ့ကြပြန်လေသည်။ ဤတစ်ကြိမ်၌ "စမူးဒ်" အမျိုးသားများ၏ ငြင်းဆန်မှုသည် ပို၍ဆိုးရွားလာခဲ့၏။

ထိုအခါ တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) က စမူးဒ်အမျိုးသားများအား "အသင်တို့သည် အီမာန်သက်ဝင်ယုံကြည်မှုကို ပြန်လည်စွန့်လွှတ်ကြသည်။ သို့ရှိရာ အသင်တို့သည် အရှင်မြတ်၏ ကုလားအုပ်မအား ဖျက်ဆီးနှောက်ယှက်ခြင်း မပြုကြလေနှင့်။ ထိုကုလားအုပ်မအား ကမ္ဘာမြေပေါ်တွင် သွားလာလှုပ်ရှား နေထိုင်စားသောက်ရန် လွှတ်ထားကြလေကုန်" ဟု မိန့်ကြားတော်မူခဲ့လေသည်။

ဤသို့ဖြင့် တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) သည် မိမိ၏အမျိုးသားများနှင့် နှစ်ပေါင်း (၂၀) တိုင်တိုင် နေထိုင်တော်မူခဲ့သည်။ ထိုအတောအတွင်း တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) သည် အလ္လာဟ်အရှင်၏ ကုလားအုပ်မနှင့် စမူးဒ်အမျိုးသားများ၏ ကျွဲနွားတိရစ္ဆာန်များအတွက် ရေကန်မှ ရေသောက်သုံးရန် အလှည့်ကျစနစ်ကို သီးခြားသတ်မှတ်ပေးတော်မူခဲ့လေသည်။

စမူးဒ်အမျိုးသားများအတွင်းမှ ဆိုးသွမ်းသူ (၈) ဦးတို့သည် အလ္လာဟ်၏ ကုလားအုပ်မအား သတ်ဖြတ်ရန် သဘောတူညီခဲ့ကြသည်၊ "ကဒါရ် (အဗ) ဆာလစ်ဖ်" အမည်ရှိ သူယုတ်မာသည် ရဗီအွတ်လ်စာနီ (၁၄) ရက်နေ့တွင် ကုလားအုပ်မအား လည်လှီးသတ်ဖြတ်ပြီး၊ အသား ကို ကြော်၍စားကြလေသည်၊ ကုလားအုပ်မ၏ သားငယ်သည် ၎င်းမိခင်အား လည်လှီးသတ်ဖြတ်နေသည်ကို တွေ့မြင်လေရာ ထိုနေရာမှ လှည့်၍ ထွက်ပြေးသွားကာ တောင်တစ်တောင်၏ ထိပ်ပေါ်သို့ တက်သွားလေသည်။ စမူးဒ်အမျိုးသားများသည် ကုလားအုပ်မ၏ သားကို ဖမ်းဆီးရန် လိုက်လာခဲ့ကြသည်။ ကုလားအုပ်ငယ်ရှိသော တောင်ထိပ်ပေါ်သို့ တက်သွား ခဲ့ကြလေသည်။

ထိုသတင်းကို တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) သိရှိလေရာ အချင်းဖြစ်ပွားရာနေရာသို့ ရောက်ရှိလာသည်။ ကုလားအုပ်မအား သတ်ဖြတ်ထားခြင်းနှင့် ကုလားအုပ်မ၏ သားငယ်မှာ တောင်ထိပ်ပေါ်သို့ တက်ရောက်ခိုလှုံနေခြင်းကို တွေ့မြင်တော်မူသဖြင့် လွန်စွာ ပူဆွေးဝမ်းနည်းမိခဲ့သည်။ ကုလားအုပ်မ၏ သားငယ်သည်လည်း တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) အား မြင်ပြီး အော်ဟစ်ညည်းငြူကာ မျက်လုံးများမှ မျက်ရည်

များ စီးကျသည်အထိ ငိုကြွေးခဲ့သည်။ ထို့နောက် သုံးကြိမ်သုံးခါ အသံပြုဟစ်အော်ခဲ့သည်။ ထိုအခါ ကုလားအုပ်မသားငယ်ရပ်နေသော ကျောက်ဆောင်ကြီးသည် တစ်မဟုတ်ချင်း အက်ကွဲကာ ထိုကုလားအုပ်မသားငယ်အား ပျောက်ကွယ်သွားစေခဲ့သည်။

ထို့နောက် တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) သည် အီမာန်သက်ဝင်ယုံကြည်သူလေးထောင် (၄၀၀၀) အား မိမိနှင့်အတူ ခေါ်ဆောင်၍ မက္ကာရှေမြို့တော်ဖက်သို့ ခရီးနှင်ခဲ့ လေသည်။ ကျန်ရစ်နေခဲ့သော အမိန့်ဖီဆန်ငြင်းဆန်သူ စမူးဒ် အမျိုးသားများကို "အသင်တို့ အဖို့ သုံးရက်တာအချိန်ကာလအတွင်း အာဇာဗ်အပြစ်ဒဏ်ကျရောက်မည်" ဟု ပြောဆိုခဲ့လေ သည်။

တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) မိန့်ကြားခဲ့သည့်အတိုင်း ကြာသပတေးနေ့တွင် စမူးဒ်အမျိုးသားများ၏ မျက်နှာပြင်များသည် ဝါထိန်သွားခဲ့သည်။ နောက်တစ်နေ့ သောကြာနေ့တွင် ၄င်းတို့၏ မျက်နှာပြင်များသည် သွေးများလိမ်းကျံထားသကဲ့သို့ နီရဲသွားခဲ့သည်။ တတိယစနေနေ့တွင် ၄င်းတို့၏မျက်နှာများသည် မဲနက်သွားခဲ့လေသည်။ ထိုစနေနေ့၌ပင် ကောင်းကင်တမန် ဂျိဗရာအီးလ် (အလိုင်ဟိစ္စလာမ်) ၏ အလွန်ပြင်းထန်၍ တုန်လှုပ်ခြောက်ခြားစရာကောင်းသော အော်ဟစ်သံကြီးကြောင့် စမူးဒ်အမျိုးသားများ၏ အသဲများကွဲအက်သွားကာ လူကြီးလူငယ်တစ်ဦးမကျန် သေကြေပျက်စီးသွားခဲ့ကြလေသည်။

တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) သည် သက်တော် (၂၈၀) အရွယ်တွင် မက္ကာရှေမြို့တော်၌ ကွယ်လွန်တော်မူခဲ့ပြီး (ဟဂျ်ရေအဆ်ဝဒ်) အနီးပတ်ဝန်းကျင်၌ မြှုပ်နှံတော်မူခြင်းခံရလေသည်။ အချို့သော သမိုင်းပညာရှင်များက တမန်တော်ဆွာလေ့ဟ် (အလိုင်ဟိစ္စလာမ်) သည် သက်တော် (၅၈) နှစ်တွင် ကွယ်လွန်သည်ဟု ဆိုကြလေသည်။

**လေ့ကျင့်ခန်း (၈)**

(၁) တမန်တော်ဆွာလေ့ဟ်၏ အဖအမည်နှင့် ရုပ်ရည်ကိုရေးပြပါ။

(၂) တမန်တော်ဆွာလေ့ဟ်သည် မည်သူနောက်နှစ်ပေါင်းမည်မျှတွင် နဗီဖြစ်၍ မည်သည့် မျိုးနွယ်ထံ စေလွှတ်ပါသနည်း။

(၃) စမူးဒ်မျိုးနွယ်များ နေထိုင်ရာဒေသကို ရေးပြပါ။

(၄) တမန်တော်ဆွာလေ့ဟ်၏ ဖိတ်ခေါ်မှုနှင့် စမူးဒ်ခေါင်းဆောင်တို့၏ ဟောင်းဆိုပုံကို ရေးပြပါ။

(၅) စမူးဒ်အမျိုးသားတို့၏ အီမာန်လက်ခံပုံကို ရေးပါ။

(၆) မည်သူက ကုလားအုပ်မကို မည်သည့်နေ့တွင် ဘာတ်ဖြတ်ပါသနည်း။

(၇) ကုလားအုပ်မသတ်ခံရသည့် သတင်းကို ကြားသိရသော တမန်တော်ဆွာလေ့ဟ်သည် မည်သို့ပြုကြောင်း စုံလင်စွာရေးပါ။

(၈) တမန်တော်ဆွာလေ့ဟ်သည် သက်တော်မည်မျှတွင် ကွယ်လွန်၍ မည်သည့်နေရာ တွင် မြှုပ်နှံပါသနည်း။ ရေးပြပါ။

✻❋✻❋✻❋✻

# သင်ခန်းစာ (၉)

## နဗီတမန်တော်ရှုအိုင်းဗ်(အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော် ရှုအိုင်းဗ်၏ ဖခင်အမည်နှင့် ပတ်သက်၍ သမိုင်းပညာရှင်များအကြား ကွဲလွဲမှုရှိသည်။ အေမာမ်နဗဗီသခင်က တမန်တော်ရှုအိုင်း(ဗ်) ၏ ဖခင်အမည်ကို (မီကီးလ်) ဟု လည်းကောင်း၊ အစ်ဗ်နိုအဆီးရ်သခင်က (ဒွိုင်အူးန်) ဟု လည်းကောင်း ဆိုကြသည်။ သို့သော် အများအဆိုအရ (မီးကီးလ်) ဖြစ်သည်။

တမန်တော်ရှုအိုင်းဗ်၏ အမည်ရင်းမှာ (ယရှုံရူးန်) ဖြစ်ပြီး၊ ဂုဏ်ထူးဆောင်အမည်မှာ (ခတွီဗွတ်လ်အမ်ဘီယာ) (ဝါ) (နဗီတမန်တော်မြတ်များအတွင်း "ခွတ်သ်ဘာ" မိန့်ကြားသူ) ဖြစ်သည်။

တမန်တော်ရှုအိုင်းဗ်သည် တမန်တော်လူးသ်၏မြေး တော်စပ်သည်။ အကြောင်းမှာ ၎င်း၏မိခင်သည် တမန်တော်လူးသ်၏ သမီးပင်ဖြစ်သည်။ မခင်အမည်မှာ မကီးလ်ဖြစ်သည်။

တမန်တော်ရှုအိုင်းဗ် (အလိုင်ဟိစ္စလာမ်) သည် တမန်တော်မူစာ (အလိုင်ဟိမ္မလာမ်) ၏ ယောက္ခထီးတော်လည်းဖြစ်သည်၊ သမီးတော် "စဖူရာ" သခင်မသည် တမန်တော်မူစာ၏ ဇနီးဖြစ်ခဲ့သည်။

တမန်တော်ရှုအိုင်းဗ်သည် စွလားသ်(နမာဇ်) များစွာ ဝတ်ပြုသူဖြစ်သည်။ အုပ်စု နှစ်ဖွဲ့ ဖြစ်သော "မဒ်ယန်" ဒေသရှိ အမျိုးသားများနှင့် "အိုင်ကာဟ်" ဒေသရှိ အမျိုးသားများ ဖက်သို့ နဗီအဖြစ် စေလွှတ်ခြင်း ခံရလေသည်။

"မဒ်ယန်" နှင့် "အိုင်ကာဟ်" ဒေသရှိ အမျိုးသားများသည် စားဝတ်နေရေး ချောင် လည်ကြသော်လည်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို မသိတတ်ကြသူများဖြစ်သည်၊ အရောင်းအဝယ်ပြုလုပ်ရာ၌ ပစ္စည်းများ ချိန်တွယ်သည့်အခါ လိမ်လည်လှည့်စားမှုများ ပြုကြ သည်။ ဝယ်ယူသူအား ပစ္စည်းကို အလေးချိန်လျှော့၍ပေးကြသည်။ ဤသို့ မပြုလုပ်ကြရန်နှင့် အလ္လာဟ်အပေါ် အီမာန်သက်ဝင် ယုံကြည်ရန် တမန်တော်ရှုအိုင်းဗ် (အလိုင်ဟိစ္စလာမ်) က အမျိုးမျိုး ဖြောင့်ဖျပြောဆိုကြသော်လည်း ၎င်းအကျင့်ဆိုးများ မစွန့်လွှတ်သည့်အပြင် ပြုမြဲသာပြုကြလေသည်။

တမန်တော်ရှုအိုင်းဗ် (အလိုင်ဟိစ္စလာမ်) ၏ သွန်သင်ဆုံးမမှုကို လက်ခံခြင်းမရှိကြသည့်အခါ အလ္လာဟ်အရှင်မြတ်က ၎င်းအမျိုးအနွယ်အပေါ်သို့ အာဇားဗ်အပြစ်ဒဏ် ချတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် ပူပြင်းခြောက်သွေ့သော လေပူများကို ပြင်းပြင်းထန်ထန်တိုက်ခတ်စေပြီး၊ ၎င်းလေပူဖြင့်ပင် ထိုအမျိုးအနွယ်ဝင်များ၏ ခန္ဓာကိုယ်ကို လောင်ကျွမ်းပျက်စီးစေခဲ့သည်။

အလ္လာဟ်အရှင်မြတ်၏ "အာဇားဗ်" အပြစ်ဒဏ်ချပြီး နောက်ပိုင်းတွင် တမန်တော်ရှုအိုင်းဗ် (အလိုင်ဟိစ္စလာမ်) သည် အီမာန်သက်ဝင်ယုံကြည်သူများအား ခေါ်ဆောင်ကာ၊ မက္ကာမြို့တော်သို့ သွားရောက်နေထိုင်ကြလေသည်။ တမန်တော်ရှုအိုင်းဗ်၏ မျက်လုံးနှစ်လုံးမှာလည်း ကွယ်ပျောက်ခဲ့လေသည်။ တမန်တော်ရှုအိုင်းဗ် (အလိုင်ဟိစ္စလာမ်) သည် သက်တော် (၁၄၀) နှစ်တွင် မက္ကာမြို့တွင်ပင် ကွယ်လွန်တော်မူလေသည်။

လေ့ကျင့်ခန်း (၉)

(၁) တမန်တော်ရှုအိုင်းဗ်၏ ဖခင်အမည်နှင့် မိခင်အမည်ကို ရေးပါ။
(၂) တမန်တော်ရှုအိုင်းဗ်သည် မည်သူ့မြေးဖြစ်၍ မည်သူက ယေကွှထီး တော်ပါသနည်း။ ရှင်းလင်းစွာရေးပါ။
(၃) တမန်တော်ရှုအိုင်းဗ်သည် နဗီအဖြစ် မည်သည့်ဒေသတွင် စေလွှတ်ခြင်း ခံရပါသနည်း။
(၄) ၎င်းဒေသရှိ အမျိုးသားများ၏ အကျင့်ဆိုးကို ရေးပါ။
(၅) အရှင်မြတ်ဖက်မှ မည်သည့်အပြစ်ဒဏ်ချသနည်း။
(၆) တမန်တော်သည် သက်တော်မည်မျှတွင် မည်သည့်ဒေသတွင် ကွယ်လွန်၍ မျက်လုံးတော် မည်သို့ဖြစ်ခဲ့ပါသနည်း။

*

# သင်ခန်းစာ (၁၀)
# နဗီတမန်တော်အလ်ယဆအ်(အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော် အလ်ယဆအ်၏ဖခင်အမည်မှာ "အွမ်သူးဓ်" ဖြစ်သည်။ ၄င်းအား ဖွားမြင်သည့်အချိန်မှာ မိခင်သည် အလွန်အသက်ကြီးပြီး အမယ်အိုဘဝသို့ပင် ရောက်နှင့်နေလေသည်။ ထို့ကြောင့် ၄င်းအား "အစ်ဗနိုအဂျူးဇ် (ဝါ) အမယ်အို၏သား" ဖြင့် အမည်ကျော်ကြားခဲ့သည်။ ၄င်းသည် တမန်တော်အစ်လ်ယားစ် (အလိုင်ဟိစ္စလာမ်) ၏ တပည့်ရင်းလည်းဖြစ်ခဲ့သည်။

တမန်တော်အစ်လ်ယားစ် (အလိုင်ဟိစ္စလာမ်) "ဗိုရားက်" အစိုးအနင်းဖြင့် မိုးကောင်းကင်သို့ တက်သွားစဉ် တမန်တော် အလ်ယဆ[illegible] (အလိုင်ဟိစ္စလာမ်) က အို ... အလ္လာဟ်၏ တမန်တော် ကျွန်တော်မျိုးအား မည်သည့်အမိန့် ချမှတ်ပါမည်းနည်းဟု လျှောက်ထား၏။ ထိုသောအခါ တမန်တော်အစ်လ်ယားစ်က မိမိခြုံထည်ကို ပေးအပ်ခဲ့သည်။ သဘောမှာ ၄င်း၏ ကိုယ်စားလှယ်အဖြစ် ခန့်အပ်၍ ၄င်းနောက်ပိုင်းတွင် နဗီအဖြစ် တာဝန်ကို ထမ်းဆောင်စေလေသည်။

ထိုခေတ်အချိန်အခါက အလွန်ဆိုးသော ဘုရင် "အဂျဗ်" နှင့် မိဖုရားဆိုး "အရ်ဘီးလ်" တို့ ကြီးစိုးလေသည်။ မိဖုရား၏ သွေးထိုးဂုံးချောမှုကြောင့် များစွာသော နဗီတမန်တော်များ "ရှဟီးဒ်" ဖြစ် အသတ်ခံရလေသည်။ ထိုစဉ်က ၄င်းတို့အား တမန်တော်အစ်လ်ယားစ် (အလိုင်ဟိစ္စလာမ်) က တရားလမ်းမှန်သို့ ဖိတ်ခေါ်သည်ကို ငြင်းဆန်ကြသည်။ ထို့ကြောင့် အလ္လာဟ်အရှင်မြတ်က ပြစ်ဒဏ်အဖြစ် ၄င်းတို့နှစ်ဦးကို ရက်စက်စွာ သတ်ဖြတ်ခြင်း ခံရလေသည်။ ၄င်းတို့၏ ရုပ်အလောင်းကို မြှုပ်နှံမည့်သူပင် မရှိချေ။ အလောင်းများ ဥယျာဉ်အတိုင်း ရှိနေခဲ့ရာ လင်းတများနှင့် ကျီးကန်းများ၏ အစာဖြစ်ခဲ့သည်။

တမန်တော်အလ်ယဆအ် (အလိုင်ဟိစ္စလာမ်) နဗီအဖြစ် တင်မြှောက်ခံရသည့်အချိန်၌ များစွာသောလူတို့သည် အမြင်မှန်ရ၍ အလ္လာဟ်နှင့် အလ္လာ့ဟ် တမန်တော်များအပေါ် အီမာန်သက်ဝင်ယုံကြည်လာကြသည်။ ဤသည်လည်း ဘုရင်ဆိုးနှင့် မိဖုရားဆိုးတို့၏ အဖြစ်ကို မြင်တွေ့ရခြင်း၏ နောက်ပိုင်းတွင် ဖြစ်သည်။

တမန်တော်အလ်ယဆအ် (အလိုင်ဟိစ္စလာမ်) သည် သက်တော် (၄၀၂) နှစ်အရွယ်တွင် အရှင့်အမိန့်ကို ခံယူ၍ ကွယ်လွန်တော်မူခဲ့သည်။ ၄င်းကို "သတ်ဆ်သတ်ရ်" အမည်ရှိ ကျေးရွာ၌ မြှုပ်နှံခဲ့လေသည်။

**လေ့ကျင့်ခန်း (၁၀)**

(၁) တမန်တော်အလ်ယဆအ်၏ မွေးဖွားပုံနှင့် ဖခင်အမည်ကို ရေးပါ။
(၂) တမန်တော်အလ်ယဆအ်သည် မည်သူ့တပည့်ဖြစ်၍ မည်သို့တာဝန်အပ်နှင်းခြင်းခံရပါသနည်း။
(၃) ဘုရင်ဆိုး၊ မိဖုရားဆိုးအကြောင်းရေးပါ။
(၄) တမန်တော်အလ်ယဆအ်သည် သက်တော်မည်မျှတွင် ကွယ်လွန်၍ မည်သည့်နေရာ၌ မြှုပ် ထားပါသနည်း။

# သင်ခန်းစာ (၁၁)
# နဗီတမန်တော်ဇွတ်လ်ကစ်ဖ် (လ်)(အလိုင်ဟိစ္စလာမ်) အကြောင်း

တမန်တော်ဇွတ်လ်ကစ်ဖ်(လ်) ၏ ဖခင်အမည်မှာ "အိုင်ယူးဗ်" ဟု ခေါ်သည်။ ၄င်း၏ အမည်ရင်းမှာ "ဗရှရ်" ဟုခေါ်ပါသည်။ ဇွတ်လ်ကစ်ဖ် (လ်) ဟူသည်မှာ ၄င်း၏ ဂုဏ်ပုဒ်အမည် ဖြစ်လေသည်။ ဇွတ်လ်ကစ်ဖ် (လ်) သည် အလ္လာဟ်အရှင်မြတ်ထံတော်ပါး၌ ဆောင်ရွက်မှု တစ်ရပ်နှင့် ပတ်သက်၍ မိမိကိုယ်တိုင် တာဝန်ယူခဲ့သည်။ ၄င်းဆောင်ရွက်ချက်မှာ လွန်ခဲ့သော နဗီတမန်တော်များ ကျင့်ဆောက်တည်ခဲ့သည့် "အေဗာဒသ်" ခဝပ်ကိုးကွယ်မှုများထက် နှစ်ဆ ကျင့်ဆောက်တည်မည်ဟု တာဝန်ယူခဲ့သည်။

တမန်တော် ဇွတ်လ်ကစ်ဖ် (လ်) (အလိုင်ဟိစ္စလာမ်) သည် သက်တော် (၇၅) နှစ်အရွယ်တွင် ကွယ်လွန်တော်မူသည်။ ၄င်းကို "ကစ်ဖ်(လ်) မည်သောရွာတွင် မြှုပ်နှံထားလေသည်။"

**လေ့ကျင့်ခန်း (၁၁)**

(၁) တမန်တော်ဇွတ်လ်ကစ်ဖ် (လ်)၏ ဖခင်အမည်နှင့် ဂုဏ်ပုဒ်ကို ရေးပါ။
(၂) တမန်တော်ဇွတ်လ်ကစ်ဖ် (လ်) သည် မည်သည့်တာဝန်ကို ယူပါသနည်း။
(၃) တမန်တော်ဇွတ်လ်ကစ်ဖ် (လ်) သည် အသက်မည်မျှတွင် ကွယ်လွန်၍ မည်သည့်နေရာတွင် မြှုပ်နှံ ထားပါသနည်း။

✻✻✻